# မာတိကာ

မြန်မာစာကို နေ့တိုင်း ရေးနေကြသည်။ မြန်မာစကားကို နေ့တိုင်း ပြောနေကြသည်။ သို့သော် အမှတ်မဲ့ သော်လည်းကောင်း ၊ အမှတ်မှား၍ သော်လည်းကောင်း၊ အမှား ၊ အမှန် မကွဲပြား၍ သော်လည်းကောင်း **အသံထွက်ပုံထွက်နည်း** မှားယွင်းကြသည်။ **အက္ခရာရေးဆွဲပုံ၊ ရေးဆွဲနည်း** လွဲနေတတ်သည်။ **စာလုံးပေါင်းသတ်ပုံ၊ သဒ္ဒါ အသုံးအနှုန်း၊ အထားအသို** လွဲမှားနေတတ်သည်။ ထိုအမှားများထဲမှ မှားလေ့ မှားထရှိသော အမှားများကို တိုတိုရှင်းရှင်းနှင့် လိုရင်းကို တင်ပြထားသည်။

## ဤစာအုပ်နှင့်ပတ်သက်၍...

မှားတတ်သော မြန်မာစာအရေးအသားများကို သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းများတွင် တွေ့ရတတ်သည်။ အထူးသဖြင့် ဘာသာပြန် ဝတ္ထုများ၊ ဘာသာပြန် ဆောင်းပါးများတွင် အတွေ့ရများသည်။ လမ်းဘေး ဆိုင်းဘုတ်များ ၊ ကြော်ငြာများတွင်လည်း တွေ့ရတတ်သည်။ ရုပ်မြင် သံကြားနှင့် အသံလွှင့်ဌာနများက ထုတ်လွှင့်ချက်များတွင်လည်း အသံထွက် မှားများကို ကြားရတတ်သည်။

ထိုမှားတတ်သော အမှားများကို တတ်စွမ်းနိုင်သရွေ့ လေ့လာ ဖော်ထုတ်ပြီး အမှန်ကိုပြင်ရန် လိုအပ်လျက်ရှိသည်။ ထိုလိုအပ်ချက်ကို ဖြည့်ရန် မြန်မာစာအဖွဲ့က ချမှတ်ပေးသည့် အခြေခံမူများနှင့်အညီ ဤ "**မြန်မာစာမြန်မာစကား**" စာအုပ်ထွက်ပေါ်လာခြင်းဖြစ်သည်။

မြန်မာစာကို စနစ်တကျရေးနိုင်၍ မြန်မာစကားကို မှန်မှန်ကန်ကန် ပြောနိုင်ရန် မှားတတ်သော အမှားများကို သိထားရန် လိုအပ်သည်။ သို့မှသာ အမှားကိုပြင်နိုင်ပေမည်။ ထို့ကြောင့် ဖတ်ရှုသူများ အလွယ်တကူ နားလည်၍ အလွယ်တကူ အသုံးပြုနိုင်ရန် အခန်း(၅)ခန်း ခွဲလျက် ဖော်ပြထားသည်။

လူကြီးလူငယ်မရွေး တိုတိုရှင်းရှင်း ကွက်ကွက်ကွင်းကွင်း မြင်သာ စေရန် ကာတွန်းဆရာများ၏ ကူညီဆောင်ရွက်မှုကိုလည်း ရယူထားသည်။

## ပြုစုသူများ

| | | | |
|---|---|---|---|
| ၁။ | အသံထွက်မှန်မှ | ဒေါ်ခင်နွဲ့နွဲ့ | ၊ စာတည်း |
| ၂။ | အက္ခရာနှင့် ကိန်းဂဏန်းရေးဆွဲပုံ | ဦးတင်မောင်ဝင်း | ၊ လက်ထောက်စာတည်း |
| ၃။ | စာလုံးပေါင်းသတ်ပုံ | ဦးထွန်းတင့် | ၊ ညွှန်ကြားရေးမှူး |
| ၄။ | သဒ္ဒါအသုံးအနှုန်း | ဒေါ်ခင်နွဲ့နွဲ့ | ၊ စာတည်း |
| ၅။ | ဝါကျဖွဲ့စည်းပုံ | ဒေါ်ခင်နွဲ့နွဲ့ | ၊ စာတည်း |

## 

၁။ ဒေါ်ခင်မေရီ
၂။ ဒေါ်မြင့်ဆွေ
၃။ ဒေါ်ခင်မြင့်ရည်
၄။ ဒေါ်စန်းရီ
၅။ ဒေါ်တင်တင်စု
၆။ ဦးထွန်းရွှေ

## 

၁။ ပန်းချီ သန့်ဇင်
၂။ ဦးကျော်မြင့်အေး
၃။ ဦးအောင်ကျော်ဦး
၄။ ဦးအောင်မိုး
၅။ ကွန်ပျူတာစာစီ– နွဲ့နွဲ့ရီ

## 

၁။ ကံချွန်
၂။ ခင်ဆွေ
၃။ ချစ်ဆွေ
၄။ ငွေကြည်
၅။ တင်အောင်နီ
၆။ ပိုးဇာ
၇။ မောင်မောင်
၈။ မောင်မောင်ဇော်
၉။ မောင်ဝဏ္ဏ
၁၀။ မြေဇာ
၁၁။ ရွှေမင်းသား
၁၂။ သုတ
၁၃။ သော်က
၁၄။ သစ်ထွဏ်း

# အသံထွက်မှန်မှ

ပါဠိစာပေကျမ်းဂန်တတ်ကျွမ်းသူများက ပါဠိစကားလုံးများကို ပါဠိဘာသာစကား၏ ဌာန်၊ ကရိုဏ်း၊ ပယတ်နှင့်အညီ—

မေတ္တာ ကို **မစ်တာ**

ပညာ ကို **ပင်ညာ**

မဟောသဓ ကို **မဟောသဓ** ဟု

အသံထွက်

ဖတ်သည်။ သို့သော် နေ့စဉ်သုံး မြန်မာစကားတွင်မူ—

မေတ္တာ ကို **မျစ်တာ**

ပညာ ကို **ပျင်ညာ**

မဟောသဓ ကို **မဟော်သဓာ** ဟု

မြန်မာ့ အာ၊ လျှာအတိုင်း ပြောင်းလဲထွက်သည်။

ထို ပါဠိ အသံထွက်တို့သည် ပါဠိ အသံထွက်စစ်စစ် မဟုတ်သော်လည်း အများလက်ခံ သုံးစွဲနေသည့် အသားကျ အသံထွက်များ ဖြစ်သည်။ သို့ရာတွင် အချို့ပါဠိစကားလုံးတို့ကိုမူ အသိအမှတ်မှားပြီး ပျက်ပျက်ယွင်းယွင်း ရွတ်ဖတ်လာကြသဖြင့် အနက်အဓိပ္ပာယ်ပါ လွဲမှား သွားရသည်။ ထိုအသံထွက်များကိုမူ အမှန်သို့ ပြင်ရန် လိုအပ်သည်။

# ကသတ်သံဖြင့် ဖတ်

"ဝါကျ၊ သကျ၊ စကြဝဠာ" ဟူသော ကဗျည်းယပင့်၊ ကဗျည်းရရစ်ထားသည့် ပါဠိစကားလုံးတို့ကို ( ကသတ်သံ )ဖြင့် ဖတ်ရသည်။

ဝါကျ =
(ဆိုလိုသည့် အဓိပ္ပာယ် ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်း)

**ဝါကျ** တွင် **ဝါ** သည် ကဗျည်း ယပင့် **ကျ** ရှေ့တွင် ရှိသည်။ **ကျ** သည် **က** နှင့် **ယ** ဆင့်ထားသော စကားလုံး ဖြစ် သည်။ ထို့ကြောင့် **ဝါ** ကို **ဝက်** ဟု **ကသတ်သံ** ဖြင့် အသံထွက်၍ **ဝါကျ** ကို **ဝက်ကျု့** ဟု ဖတ်ရသည်။

ထိုနည်းတူ

# သေတ်သံဖြင့် ဖတ်

ပါဠိဘာသာတွင် (**ည**)သည် (**ဉ ကလေး**) နှစ်လုံးဆင့်ထားခြင်း ဖြစ်သည်။ ထို့ကြောင့် (**ည**) ရှေ့တွင်ရှိသော အက္ခရာတို့ကို (**ဉ ကလေးသတ်**) လျက် ( **သေတ်သံ**)ဖြင့် ဖတ်ရသည်။

**ကတညုတ** တွင် **တ** သည် **ည** ရှေ့၌ ရှိသည်။ **ည** သည် **ဉကလေး** နှစ်လုံးဆင့်ထားသော စကားလုံးဖြစ်သည်။ ထို့ကြောင့် **တ** ကို **ဉကလေး** သတ်လျက် **တင်** ဟု **သေတ်သံ** ဖြင့် အသံထွက်၍ **ကတညုတ** ကို **ကတင်ညုတာ** ဟု ဖတ်ရသည်။

ထိုနည်းတူ

အညတရ =
(အမျိုးအမည် မထင်ရှားသူ၊
သာမညလူ)
အညတရ
အည့တရ့ ✖
အင်ညတ်တရ့ ✔

အညမည =
(အချင်းချင်း အပြန်အလှန်)
အညမည
အည့မည့ ✖
အင်ည့မင်ည့ ✔

## ဠာန်တူသော်လည်း

အချို့ပါဠိစကားလုံးတို့ကို ရွတ်ဖတ်ရာတွင် စကားသံဖြစ်ရာ ဌာန် တူ ဗျည်း တို့ကို မှားယွင်းပြောင်းလဲ ရွတ်ဖတ်တတ်သည်။ ထိုအမှားမျိုး မဖြစ်စေရန် သတိထားရွတ်ဖတ်ရသည်။

ပါဠိစကားလုံး **ထောမနာ** တွင် **မ** သည် နှုတ်ခမ်း၌ ဖြစ်သော ဗျည်း ဖြစ်သည်။ **ပ** သည်လည်း နှုတ်ခမ်း၌ ဖြစ်သည်။ ထိုဌာန်တူသော **မ** နှင့် **ပ** ကို ပြောင်းလဲ၍ မှားယွင်း ရွတ်ဖတ်တတ်သည်။ ထောမနာ ကို **ထောမနာ** ဟု ရွတ်ဖတ်မှ မှန်သည်။

ထိုနည်းတူ

သန္နိဋ္ဌာန် =
(ဆုံးဖြတ်ချက်)
သန္နိဋ္ဌာန်
သန်ဒိတ်ထန် ✖
သန်နိတ်ထန် ✔

သန်ဒိတ်ထန်
သန်နိတ်ထန်လို့
ပြန်ဆို....။
သန္နိဋ္ဌာန်

ကဏ္ဍ =
(အပိုင်း၊ အခန်း)
ကဏ္ဍ
ဂန်ဒို့၊ ဂန်းဒို့ ✖
ကန်ဒို့ ✔

ဂန်းဒို့
ကန်ဒို့
ကဏ္ဍ
ကန်ဒို့ လို့

ကဏ္ဌဋ္ဌာန် =
(လည်ချောင်းအရပ်)
ကဏ္ဌဋ္ဌာန်
ဂန်ဒ့ါထန်
ကန်ထာ့ထန်

ဂန်ဒ့ါထန်
ကဏ္ဌဋ္ဌာန်
ကန်ထာ့ထန်လို့
ဖတ်ရတယ်။

# သံတူသံယောင်၊ သတိဆောင်

အချို့ပါဠိစကားလုံးများကို ရွတ်ဖတ်ရာ၌ မူလပါဠိအသံထွက်အတိုင်း မဟုတ်တော့ဘဲ **သံတူသံယောင်** လိုက်၍ ရွတ်ဖတ်တတ်သည်။ ပါဠိစကားလုံး၏ မူလအသံထွက်အတိုင်း အမှန်ရွတ်ဖတ်နိုင်ရန် သတိထားသင့်သည်။

**ဒုက္ကရစရိယာ** သည် **ဒုက္ခဆင်းရဲခံ** ၍ ကျင့်ခြင်း မဟုတ်။ **သာမန်ပုဂ္ဂိုလ်တို့ ပြုနိုင်ခဲ၊ ကျင့်နိုင်ခဲသော အကျင့်ကို ကျင့်ခြင်း** ဟု အဓိပ္ပာယ်ရသည်။

**နိစ္စရူပ** သည် **နေ့စဉ်** ဟူသော အနက်အဓိပ္ပာယ် မဟုတ်ပါ။ **အမြဲတမ်း** ဟူသော အဓိပ္ပာယ် ရသည်။

**ပိဏ္ဍပါတ်** သည် **သပိတ်၌ခံ၍ရသောဆွမ်း** ဟု အဓိပ္ပာယ် ရသည်။

**ပတ္တပိုဏ်** သည် **နယ်ဖတ်စားခြင်း** မဟုတ်ပါ။ **တစ်ခုတည်းသော သပိတ်၌ ရှိသည့် ဆွမ်းခဲဖွယ် ဘောဇဉ်** ဟု အဓိပ္ပာယ်ရသည်။

# အက္ခရာနှင့်ကိန်းဂဏာန်းရေးဆွဲပုံ

မြန်မာအက္ခရာများအနက် **ဠ၊ ဌ၊ ဍ၊ ဃ၊ ဋ၊ အ** အက္ခရာများကို ရေးဆွဲရာ၌ မှားတတ်သည်။

ထိုအက္ခရာများကို ဆင့်ရေးရသောအခါ သတိမထားမိလျှင် ပိုမှားနိုင်သည်။ အက္ခရာဆင့်ပုံ စနစ်ကို သိထားလျှင် ထိုအမှတ်မဲ့ အမှားမျိုးမှ ကင်းနိုင်သည်။

ထိုနည်းတူ မြန်မာကိန်းဂဏာန်းများကို ရေးဆွဲရာမှာလည်း မှန်ကန် ပီသရန် လိုသည်။ သို့မဟုတ်ပါက ကိန်းဂဏာန်းအချင်းချင်းသော်လည်းကောင်း ၊ အက္ခရာတစ်ခုခုနှင့်သော်လည်းကောင်း မှားတတ်သည်။

# ဝိုက်ချ မောက်ချ

**ဝိုက်ချ**သည် အက္ခရာတစ်ခုခုနောက်တွင် ဝိုက်ဝိုက်ကွေးကွေး ရေးချသော **အာ**သရလက္ခဏာ **(–ာ)**ဖြစ်သည်။

**မောက်ချ**သည် အက္ခရာတစ်ခုခုနောက်တွင် မို့မို့မောက်မောက် ရေးချသော **အာ**သရလက္ခဏာ **(–ါ)**ဖြစ်သည်။

ဝိုက်ချ (–ာ)ကို **ခ၊ ဂ၊ င၊ ဒ၊ ပ၊ ဝ** အက္ခရာ တို့နှင့် တွဲမသုံးရ။ သုံးသော် **ဆ၊ က၊ က၊ အ၊ ဟ၊ တ** နှင့် လွဲမှားတတ်သည်။ ထိုအက္ခရာခြောက်လုံးကို " **ခင်ဂူငေါ် ဒေါ်ပုံဝ** "ဟု အတိုမှတ်နိုင်သည်။

ထိုအက္ခရာ ခြောက်လုံးပင် ဖြစ်သော်လည်း ပင့်၊ ရစ်၊ ဆွဲ၊ ထိုး (ျ၊ ြ၊ ွ၊ ှ) နှင့် ယှဉ်လျှင်မူ ဝိုက်ချနှင့် တွဲသုံးနိုင်သည်။ (ခွာ၊ ဂျာ၊ ငြာ၊ ပျာ၊ ပြာ၊ ပွာ၊ ဝှာ)

မောက်ချ( ‒ါ)ကို **ခ၊ ဂ၊ င၊ ဒ၊ ပ၊ ဝ** အက္ခရာခြောက်လုံးနှင့်သာ ယှဉ်တွဲသုံးသည်။
ထို့ကြောင့်

**ခင်ဂူငေါ်ဒေါ်ပုံဝ၊ ဝိုက်ချမသုံးရ။**
**မောက်ချအသုံးကျ။**

❖❖❖❖❖❖❖❖❖❖❖❖❖❖❖

## ကိန်းဂဏန်း သင်္ကေတရေးဆွဲပုံ

မြန်မာကိန်းဂဏန်း ဆယ်လုံးရှိသည်။ ထိုဆယ်လုံးကို မျဉ်းလေးကြောင်းအတွင်း ရေးသွင်းလျှင် အောက်ပါအတိုင်း တွေ့နိုင်သည်။

၁။ **၁၊ ၈၊ ၀** ကို **မျဉ်းလယ်**တွင် ရေးဆွဲရသည်။
၂။ **၂၊ ၃၊ ၄၊ ၅၊ ၇၊ ၉** တို့ကို **မျဉ်းလယ်**တွင် အခြေတည်၍ **အောက်မျဉ်း**အထိ ရေးဆွဲရသည်။
၃။ **၆**ကို **မျဉ်းလယ်**တွင်အခြေတည်၍ **အပေါ်ဆုံးမျဉ်း**အထိ ရေးဆွဲရသည်။

# ဂ ငယ်နှင့် ရှစ်

**ဗျည်း**အက္ခရာ **ဂ** နှင့် ကိန်းဂဏန်းသင်္ကေတ **၈** တို့သည် ပုံသဏ္ဍာန်ချင်းတူသည်။ ကွဲပြားချက်တစ်ခုသာ ရှိသည်။

အက္ခရာ **ဂ** ငယ်တွင် အဆန်မပါ။

ဂဏန်း **၈** တွင် အဆန်ပါသည်။

ထို့ကြောင့်

**အဆန်မပါ၊ ဂငယ်ပါ၊**

**ပါလျှင်ဂဏန်း ရှစ်။**

# ရကောက် နှင့် ခုနစ်

မြန်မာဗျည်းသုံးဆယ့်သုံးလုံးတွင် နှစ်ဆယ့်ခုနစ်လုံးမြောက်ဗျည်းကို **ရကောက်** ဟု ခေါ်သည်။ **ရ** ဟု ရေးရသည်။ ဦးခေါင်းတွင် အဆန် ပါသည်။

ကိန်းဂဏန်းခုနစ်ကိုရေးသော် **၇** ဟုရေးရသည်။ အဆန် မထည့်ရ။ အဆန်ထည့်လျှင် **ရကောက်**နှင့်မှားတတ်သည်။

ထို့ကြောင့်

**ရကောက်မှန်ခဲ့၊ အဆန်ထည့်၊**

**အဆန်မဲ့လျှင် ခုနစ်ပင်။**

# ဌ နှင့် ဋ္ဌ

**ဌ** သည် **ဌ** ဝမ်းဘဲ အက္ခရာတစ်လုံးတည်း ဖြစ်သည်။ **ဋ္ဌ** သည် **ဋ** နှင့် **ဌ** တို့ ထပ်ဆင့်ထားသော ဗျည်းတွဲဖြစ်သည်။

**ဌာန**၊ **ဌာန်**၊ **ဌာပနာ**၊ **ပါဌ်ဆင့်**၊ **သူဌေး** စသည်ကို ရေးသောအခါ လည်ရစ်မပါသော **ဌ** သက်သက်နှင့် ရေးရသည်။

**ဥက္ကဋ္ဌ**၊ **အဋ္ဌမ**၊ **သေဋ္ဌေး**၊ **ပြဋ္ဌာန်း**၊ **ကမ္မဋ္ဌာန်း** စသည်ကို ရေးလျှင် **ဋ** နှင့် **ဌ** ဆင့်ထားသော လည်ရစ်ပါသည့် **ဋ္ဌ** နှင့် ရေးရသည်။

# ဥ ကလေးနှင့် ဦကြီး

**ဥ** ( ဥကလေး ) ကို **ဥ** ဦးခေါင်းမဲ့ဟုလည်း ခေါ်သည်။ ရေး သောအခါ ခြေထောက်ကို အရှည်ဆွဲရသည်။ (**ဥ**)။

သရအက္ခရာ **ဦ** နှင့် ကွဲပြားချက်မှာ သရ အက္ခရာ **ဦ** က ခြေထောက် တို၍ **ဥ** ကလေးက ခြေထောက် ရှည် သည်။

**ဦ** ကြီးသည် **ဥ** ကလေး နှစ်လုံးဆင့်ထားသော ဗျည်းတွဲဖြစ်သည်။ ထို့ကြောင့် **ဦ** ရှေ့ကရှိသော အသံကို **အင်၊ အိန်၊ အုန်** အသံတစ်ခုခု ဖြင့် ရွတ်ရ ခြင်းဖြစ်သည်။
ထို့ကြောင့်

| | | |
|---|---|---|
| သဦာ | ကို | သ**င်**ဉာ |
| သာမဦ | ကို | သာမျ**င်**ဉာ့ |
| ဝိဦာဉ် | ကို | ဝိ**န်**ညင် |
| သုဦ | ကို | သု**န်**ညာ့ ဟု အသံထွက်သည်။ |

**မှတ်ချက်**။ ။ **စဉ်၊ ချဉ်၊ ပျဉ်၊ ယှဉ်** စသည်ကဲ့သို့ အသတ်နှင့်ယှဉ်လာလျှင် မှားနိုင်ဖွယ် မရှိသောကြောင့် **ဥ** ကလေးကို ခြေထောက်မရှည်ဘဲ ရေးသည်။

# ဍ နှင့် ဎ ဆင့်ပုံ

**ဋ္ဌဂ** တွင် **ဍ** အက္ခရာသည် **တတိယက္ခရာ** ဖြစ်၍ **ဎ** သည် **စတုတ္ထက္ခရာ** ဖြစ်သည်။ ပါဠိဆင့်စနစ်အရ တတိယက္ခရာနှင့် စတုတ္ထက္ခရာတို့ ဆင့်သောအခါ တတိယက္ခရာသည် စတုတ္ထက္ခရာ ၏ အထက်၌ အမြဲရှိရသည်။ ထို့ကြောင့် **ဍ** ကို **ဎ** အပေါ်၌ ဆင့်ရသည်။

နောက်ပိုင်းတွင် **ဍ** သည် **ဎ** အပေါ်မှ **ဎ** အတွင်းပိုင်းသို့ တဖြည်းဖြည်း ရောက်လာ၍ **ဍ္ဎ** ဟု ရေးလာသည်။ နောက်ပိုင်း **ဎ္ဍ** ဟုပင် **ဍ** က အောက်သို့ ရောက်သွားသည်။ မသင့်။ **ဍ** ကို **ဎ** အပေါ်တွင် ဆင့်၍ ရေးသင့်သည်။

# စာလုံးပေါင်းသတ်ပုံ

စာရေးရာတွင် စာလုံးပေါင်းသတ်ပုံ မှန်မှန်ကန်ကန် ရေးတတ်ရန် အရေးကြီးသည်။

စာလုံးပေါင်းသတ်ပုံဆိုသည်မှာ ဗျည်း၊ သရ၊ ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုး၊ အသတ်တို့ကို စာလုံးဖြစ်အောင် ရေးသားရသည့် ထုံးနည်း ဖြစ်သည်။ စာလုံးပေါင်းသတ်ပုံ မှန်ကန်ရေး၊ စနစ်ကျရေးနှင့် စပ်လျဉ်း၍ ရှေးမြန်မာမင်းများ လက်ထက်ကပင် အရေးတယူ ဆောင်ရွက်ကြသည်။

**“ ရေးထုံးအစဉ် ပျက်ယွင်းလျှင် အခေါ်သညာ အမှတ်အသား ပျက်ယွင်းရာသည်။ အခေါ်သညာ အမှတ်အသားပျက်ယွင်းလျှင်လည်း အနက်အဓိပ္ပာယ် ဝတ္ထုတရားကိုယ် ကွဲလွဲဖောက်ပြန်ရာသည်။ အနက် အဓိပ္ပာယ် ကွဲလွဲဖောက်ပြန်လျှင်လည်း တရားကျမ်းဂန် လမ်းမှန်မကျ တိမ်းယိမ်းသွေကွက်ရာသည်...”**

စသည်ဖြင့် ၁၁၄၇–ခု၊ နတ်တော်လဆန်း ၁၃ရက်နေ့တွင် ဘိုးတော်မင်းတရားက အမိန့်တော်တစ်ရပ် ထုတ်ပြန်ရာ၌ ပါဝင်သည်။

ယခုအခါ စာလုံးပေါင်းသတ်ပုံ ပြဋ္ဌာန်းကျမ်းလည်း ပေါ်ထွက်လာခဲ့ပြီ။ မှီငြမ်းကိုးကားနိုင်ပြီလည်း ဖြစ်သည်။ သို့ရာတွင် အသုံးများပြီး မကြာခဏ မှားတတ်သော စာလုံးပေါင်းသတ်ပုံများ ရှိနေသည်။ ထိုစာလုံးပေါင်းသတ်ပုံများကို အလွယ်တကူသိမြင်၍ မှတ်သားလွယ်စေရန် ဖော်ပြထားသည်။

ထို့ပြင် စာလုံးပေါင်းသတ်ပုံအရာတွင် လျဉ်းပါးတတ်သော အနက်စွဲအရေး၊ အသံစွဲအရေးနှင့် ပတ်သက်၍လည်း တိုတိုကျဉ်းကျဉ်း ထည့်သွင်းဖော်ပြထား ပါသည်။ အနက်စွဲအရေးကို တတ်နိုင်သရွေ့ ထိန်းသိမ်းလက်ခံထားရသည်များ ရှိသကဲ့သို့ အပြောတွင်ရာ၊ အရေးတွင်ရာ အသံစွဲအရေးကိုလိုက်လျော လက်ခံ ထားရသည်များရှိသည်ကိုလည်း သတိပြုချင့်ချိန်နိုင်ကြစေရန် ရည်ရွယ်ပါသည်။

# ပဲ နှင့် ဘဲ

**ပဲ** နှင့် **ဘဲ**ကို ကွဲကွဲပြားပြား ခွဲခြားသတ်မှတ် ရေးတတ်ကြဖို့ လိုသည်။ **ပဲ** ကား **အနက်စွဲအရေး၊ ဘဲ** ကား **ဖဲ** ၏ **အသံစွဲအရေး** ဖြစ်သည်။ **ပဲ** နှင့် **ဘဲ**(ဖဲ)တို့ အနက်လည်းမတူ၊ အရေးလည်းမတူ။ ထို့ကြောင့် အသုံးအနှုန်း ရေးထုံး မတူနိုင်ပေ။ **ပဲ** ကို **ပက်** ဟုလည်း ရှေးက သုံးစွဲရိုးရှိသည်။ **ပင်** နှင့်လည်း အနက်တူပင်ဖြစ်သည်။ **ပဲ၊ ပက်၊ ပင်** သည် အနက်တူဖြစ်သည်။ သို့ဖြစ်ရာ **ပဲ**ကို အောက်ပါအတိုင်း သုံးကြရသည်။

၁။ လူ**ပဲ**၊နတ်**ပဲ**၊ ပြဟ္မာ**ပဲ**၊ သူ**ပဲ**၊ ငါ**ပဲ**၊ ဆရာ**ပဲ**၊ ကျောင်းသား**ပဲ**၊ စာအုပ်**ပဲ**၊ အိမ်**ပဲ**၊ ကျောင်း**ပဲ**၊ မြစ်**ပဲ**၊ ချောင်း**ပဲ**စသည် ...

ဤတွင် **ပဲ** ကို **ပင်** နှင့် ဖလှယ်လျှင် လူ**ပင်**၊ နတ်**ပင်**၊ ပြဟ္မာ**ပင်**၊ သူ**ပင်**၊ ငါ**ပင်** ...စသည်အတိုင်း ဖြစ်လာမည်။ **ပဲ**၊ **ပင်** ၏ အနက်မှာ ပေါင်းစည်းနက်ဖြစ်သည်။ **စင်စစ်** ဟု အနက်ဖွင့်လျှင် ရနိုင်သည်။

သာဓက။ ။ လူ**ပဲ**၊ နတ်**ပဲ**၊ ပြဟ္မာ**ပဲ**။

လူ**ပင်**၊ နတ်**ပင်**၊ ပြဟ္မာ**ပင်**။

လူ**စင်စစ်**၊ နတ်**စင်စစ်**၊ ပြဟ္မာ**စင်စစ်**။

၂။ စား**ပဲ**စားနိုင်လွန်း၊ တတ်**ပဲ**တတ်နိုင်လွန်း၊ ပြော**ပဲ**ပြောနိုင်လွန်း၊ သောက်**ပဲ**သောက်နိုင်လွန်း စသည် ...

ဤ၌လည်း **ပဲ** ကို **ပင်**၊ **ပင်လျှင်** တို့နှင့် ဖလှယ်နိုင်သည်။

ဥပဒေသ။ ။ **ပင်**၊ **ပင်လျှင်**တို့နှင့် ဖလှယ်နိုင်ပြီး **စင်စစ်**ဟု အနက်ပေး၍ရလျှင် **ပဲ** ကို သုံးရန်

**ဘဲ** ကား **ဖဲ** ၏အသံစွဲအရေးဖြစ်သည်။ **ဖဲ** ကား ဖဲကြည့်ခြင်းအနက်၊ ဖဲခွာခြင်း အနက်ရှိသည်။ ရှောင်ကြဉ်ခြင်း၊ တားမြစ်ခြင်း၊ ငြင်းပယ်ခြင်းအနက် ရှိသည်။

သို့ဖြစ်ရာ **ဘဲ** ကို တားမြစ်ခြင်း၊ ငြင်းပယ်ခြင်းအနက်ရှိသည့် **မ** နှင့် တွဲ၍ သုံးကြရသည်။

မသိ**ဘဲ**၊ မစား**ဘဲ**၊ မသွား**ဘဲ**၊ မလာ**ဘဲ**၊ မကျက်**ဘဲ**၊ မဖတ်**ဘဲ**စသည်...

ဆိုလိုသည်မှာ **မ** နှင့် **ဘဲ** အကြားတွင် ကြိယာကိုထား၍ သုံးခြင်းမျိုး ဖြစ်သည်။ အနက်အဓိပ္ပာယ်အားဖြင့် ဤသို့မှတ်ယူနိုင်သည်။

| | |
|---|---|
| မသိ**ဘဲ** | မသိမှု၍ သိခြင်းကိုဖဲကြဉ်၍ |
| မစား**ဘဲ** | မစားမှု၍ စားခြင်းကို ဖဲကြဉ်၍ |
| မဖတ်**ဘဲ** | မဖတ်မှု၍ ဖတ်ခြင်းကို ဖဲကြဉ်၍ |

ဥပဒေသ။ ။ **မ** နှင့် တွဲ၍ ဖဲကြဉ်သောအနက်ကို သုံးလိုသော် **ဘဲ** ကို သုံးရန် (မ ... ဘဲ)

အောက်ပါဆောင်ပုဒ်ဖြင့် မှတ်နိုင်သည် –

**ပင်နှင့် လှယ်လျက်၊ ပေါင်းစည်းနက်၊ ဆက်ဆက်မလွဲ ပစောက်ပဲ။**

**မ နှင့် ယှဉ်လျက်၊ ဖဲကြဉ်နက်၊ မယွက်စေဘဲ ဘကုန်းပဲ။**

# ဖက် နှင့် ဘက်

အနက်သဘောအားဖြင့် **ဖက်** မှာသာ အနက်ရှိပေသည်။ **ဘက်** မှာ အနက် မရှိပါ။ သို့ရာတွင် အရာဌာနတိုင်း အနက်စွဲရေးပြီး၊ ရေးသည့်အတိုင်း အသံထွက်ရိုး မရှိပါ။ **ရေးတော့အမှန် ဖတ်တော့အသံ** ဟု ပြောစမှတ်ပြုသည်။ ဤသည်ကို လိုက်၍ အသံအတိုင်း ရေးကြရသည်လည်းရှိသည်။ အသံစွဲ အရေးဟု ဆိုသည်။ **ဖက်** နှင့် **ဘက်** လည်း သည်အတိုင်းပင်ဖြစ်သည်။ **ဖက်** ကား အနက်စွဲအရေး၊ **ဘက်** ကား အသံစွဲအရေး။

**ဖက်** ကို အောက်ပါတို့၌ သုံးသည်–

၁။ ကြိယာ **ဖက်**

သာဓက။ ။ စုံ**ဖက်**၊ စွက်**ဖက်**၊ **ဖက်**စပ်၊ **ဖက်**တွဲ၊ လိုက်**ဖက်**၊ ယှဉ်**ဖက်**၊ ဆွဲ**ဖက်**၊ တွဲ**ဖက်** စသည်တို့ကဲ့သို့သော ကြိယာများ။

၂။ အဖော်အ**ဖက်**

သာဓက။ ။ ကူဖော်လောင်**ဖက်**၊ ကြင်ဖော်ကြင်**ဖက်**၊ ဆေးဖော်ကြော**ဖက်**၊ ဆေးဖော်ဝါး**ဖက်**၊ လုပ်ဖော်ကိုင်**ဖက်**၊ သွားဖော်လာ**ဖက်** စသည်တို့ကဲ့သို့သော **ဖော်– ဖက်** တွဲလုံးများ။

၃။ သင်္ချာနှင့်တွဲသော**ဖက်**

သာဓက ။ ။ တစ်**ဖက်**တစ်ချက်၊ နှစ်ဦးနှစ်**ဖက်**၊ သုံး**ဖက်**မြင်၊ လေး**ဖက်**နာ၊ အနားငါး**ဖက်**ပဉ္စဂံ၊ လေးလုံးခြောက်**ဖက်** စသည်ဖြင့် ရှေ့တွင်အရေအတွက် သင်္ချာပါသော အရေးအသားများ။

**ဘက်** ကို အောက်ပါတို့၌ သုံးသည်–

၁။ အရပ်မျက်နှာနှင့်တွဲလျှင်–**ဘက်**

သာဓက။ ။ အရှေ့**ဘက်**၊ အနောက်**ဘက်**၊ တောင်**ဘက်**၊ မြောက်**ဘက်**။

၂။ တည်နေရာနှင့်တွဲလျှင်– **ဘက်**

သာဓက။ ။ အိမ်**ဘက်**မှာ၊ ဈေး**ဘက်**မှာ၊ မြစ်**ဘက်**မှာ၊ ရွာ**ဘက်**မှာ၊ တော**ဘက်**မှာ၊ ဝဲ**ဘက်**၊ ယာ**ဘက်**။

၃။ သူ၊ ငါ၊ ကျွား၊ မ စသည်နှင့်တွဲလျှင်–**ဘက်**

သာဓက။ ။ သူ့**ဘက်**၊ ငါ့**ဘက်**၊ ကိုယ့်**ဘက်**၊ ယောက်ျား**ဘက်**၊ မိန်းမ**ဘက်**၊ လင်**ဘက်**၊ မယား**ဘက်**၊ အဖေ့**ဘက်**၊ အမေ့**ဘက်**၊ ဆရာ့**ဘက်**၊ တပည့်**ဘက်**။

၄။ အာဒိစကားလုံး(**အစ** စကားလုံး)ဖြစ်လျှင်–**ဘက်**

သာဓက။ ။ **ဘက်**ကန်၊ **ဘက်**စုံ၊ **ဘက်**ပေါင်းစုံ၊ **ဘက်**လိုက်၊ **ဘက်**မလိုက်။

ဤတွင် ခြွင်းချက်တစ်ခုရှိသည်။ အဖော်အဖက်မှန်သမျှကို **ဖော်–ဖက်**ဟု **ဖ**ဦးထုပ်နှင့် ရေးသော်လည်း ရဲဘော်ရဲ**ဘက်**၊ ရဲဘော်၊ ရဲ**ဘက်** တို့ကိုမူ **ဘ**ကုန်း နှင့်ပင် ရေးရန် ဖြစ်သည်။ အရေးတွင်ကျယ်မှုအရ ခြွင်းချက်ဟု မှတ်နိုင်သည်။

အောက်ပါဆောင်ပုဒ်ဖြင့် မှတ်နိုင်သည်–

အရပ်မျက်နှာ၊ တည်နေရာ၊
သူငါကျားမ၊ အာဒိစ၊ ရေးကြ**ဘကုန်း**နှင့်။
ကြိယာ**ဖက်**၊ အဖော်**ဖက်**၊
ယှဉ်လျက်သင်္ချာ၊ ရေတွက်ခါ၊ ရေးပါဦးထုပ်နှင့်။
ရဲ**ဘော်**ရဲ**ဘက်**၊ မျှသာပက်၊
ခြွင်းချက်ထားကုန်လင့်။

## ဖူး၊ ဘူး

မြန်မာစာအဖွဲ့က ထုတ်ဝေသော မြန်မာအဘိဓာန်တွင် **ဖူး** ကို **ဖူး**တွေ့၊ **ဖူး**မြော်၊ **ဖူး**ရောင်၊ **ဖူး**ထွက်၊ ဖဲတွင်**ဖူး** ဟူသော အနက်များကို ပြပြီး နောက် "**ဖူး**၊ စည်း– ကြုံတွေ့သိမြင် ဖြစ်ပျက်ခဲ့ပြီးကြောင်း ထင်ရှားစေသည့် စကားလုံး" ဟု ဖွင့်ဆိုထားသည်။ **စည်း** မှာ **ပစ္စည်း** ဟု ဆိုလိုသည်။

**ဘူး** ကို **ဘူး**သီး၊ ထည့်စရာ**ဘူး** ဟူသောအနက်များကို ပြပြီးနောက် "**ဘူး**၊ စည်း– ငြင်းပယ်သော အနက်ဖြင့် ကြိယာကို ထောက်ကူသောစကားလုံး"ဟု ဖွင့်ဆိုထားသည်။

ဤတွင် အခြား **ဖူး** အနက်၊ **ဘူး** အနက်များအကြောင်း ရှင်းပြလိုရင်း မဟုတ်ပါ။ ပစ္စည်းစကားလုံးဖြစ်သော **ဖူး** နှင့် ပစ္စည်းစကားလုံးပင်ဖြစ်သော **ဘူး** တို့ အသုံးမတူကြောင်း ခွဲခြားမှတ်သားရန်အကြောင်းကို ရှင်းပြလိုရင်း ဖြစ်သည်။

**ဖူး** ၏ မူလအနက်မှာ "ပူးယှဉ်ခြင်း၊ ထိတွေ့ခြင်း၊ ကြုံကြိုက်ခြင်း၊ ပေါင်းစည်းခြင်း"ပင် ဖြစ်သည်။ **ဖူး** ကို ပစ္စည်းအဖြစ် သုံးသောအခါ ထိုမူလ အနက်များဖြင့်ပင် ဆိုင်ရာကြိယာကို ထင်ရှားအောင် အထောက်အကူ ပြုနေ သည်ကို တွေ့ရသည်။

သာဓက။ ။

စား**ဖူး**သည် ဆိုသည်မှာ စားသည့်အလုပ်နှင့် စားခြင်းနှင့်ပူးယှဉ်၊ ထိတွေ့၊ ကြုံကြိုက်၊ ပေါင်းစည်းခဲ့သည်မှာ အမှန်ဖြစ်ကြောင်း၊ စားခဲ့သည်မှာ ထင်ရှားကြောင်း ဆိုလိုခြင်းဖြစ်သည်။

မြင်**ဖူး**သည် ဆိုသည်မှာလည်း မြင်သည့်အဖြစ်နှင့် မြင်ခြင်းနှင့်ပူးယှဉ်၊ ထိတွေ့၊ ကြုံကြိုက်၊ ပေါင်းစည်းခဲ့သည်မှာ အမှန်ဖြစ်ကြောင်း၊ မြင်ခဲ့သည်မှာ ထင်ရှားကြောင်း ဆိုလိုခြင်းဖြစ်သည်။

| | | |
|---|---|---|
| တွေ့**ဖူး**သည်၊ မြင်**ဖူး**သည် | ကဲ့သို့သော | ရူပါရုံဆိုင်ရာ |
| ကြား**ဖူး**သည်၊ နားထောင်**ဖူး**သည် | ကဲ့သို့သော | သဒ္ဒါရုံဆိုင်ရာ |
| နမ်း**ဖူး**သည်၊ အနံ့ရ**ဖူး**သည် | ကဲ့သို့သော | ဂန္ဓာရုံဆိုင်ရာ |
| စား**ဖူး**သည်၊ သောက်**ဖူး**သည် | ကဲ့သို့သော | ရသာရုံဆိုင်ရာ |
| ပူလောင်**ဖူး**သည်၊ နာကျင်**ဖူး**သည် | ကဲ့သို့သော | ဖောဋ္ဌဗ္ဗာရုံဆိုင်ရာ |
| ကြံစည်**ဖူး**သည်၊ စိတ်ကူး**ဖူး**သည် | ကဲ့သို့သော | ဓမ္မာရုံဆိုင်ရာ |

ကြိယာများစွာ၏ နောက်မှနေ၍ ကြိယာကို အထောက်အကူပြုနိုင်ပေသည်။

**ဘူး** ၏ မူလအနက်ကို ရှာလိုလျှင်လည်း **ဖူး**၏ မူလအနက်မှာပင် ရှာရမည် ဖြစ်ပါသည်။ **ဖူး**မှာ အနက်စွဲအရေး၊ မူလအနက်ရှိသည်။ **ဘူး**မှာ အသံစွဲအရေး၊ မူလအနက်မရှိ။

ပစ္စည်းစကားလုံးဖြစ်သော **ဘူး**၏ မူလအနက်မှာလည်း ဖူး၏ အနက်ပင်ဖြစ်သည်။ **ဖူး**၏အနက် ပူးယှဉ်၊ ထိတွေ့၊ ကြုံကြိုက်၊ ပေါင်းစည်းအနက်များပင်ဖြစ်သည်။ ထိုမူလအနက်မှ ဆင့်ပွားလာကာ အမှန်တကယ်ဖြစ်သည်၊ ထင်ရှားသည်ဟူသော အနက်ကို ဆောင်လျက် ပစ္စည်းစကားလုံးအဖြစ် တာဝန်ယူရသည်။ **ဖူး**လည်း သေချာသည့်အနက်၊ အမှန်တကယ်ဖြစ်သည့် အနက်၊ ထင်ရှားသည့်အနက်ဖြင့်ပင် ကြိယာကို အထောက်အကူပြုသည်။ **ဘူး**လည်း သေချာသည့်အနက်၊ အမှန်တကယ်ဖြစ်သည့်အနက်၊ ထင်ရှားသည့်အနက်ဖြင့်ပင် ကြိယာကို အထောက်အကူပြုသည်။

သို့ရာတွင် **ဖူး** ကား **အဖြစ်** သေချာခြင်းကို ပြသည်။ **ဘူး** ကား ငြင်းပယ်ခြင်း အနက် ရှိသည့် **မ** နှင့်ယှဉ်၍ **မဖြစ်ကြောင်း** သေချာခြင်းကို ပြသည်။ **ဖူး** ကား အဖြစ် မှန်ကန်ထင်ရှားခြင်းကို ပြသည်။ ထို့ကြောင့်လည်း **ဘူး**ကို ငြင်းပယ်သော အနက် အမှန်ထင်ရှားသေချာခြင်းကို ပြလိုသောအခါ သုံးခြင်းဖြစ်သည်။

သာဓက။ ။

| | |
|---|---|
| မမြင်**ဘူး** ဆိုသည်မှာ | မမြင်သည်မှာ မှန်ကန် ထင်ရှား သေချာခြင်း၊ မြင်မှုကို ငြင်းပယ်ခြင်းအနက် ရှိသည်။ |
| မစား**ဘူး** ဆိုသည်မှာ | မစားသည်မှာ မှန်ကန် ထင်ရှား သေချာခြင်း၊ စားမှုကို ငြင်းပယ်ခြင်းအနက် ရှိသည်။ |
| မပြော**ဘူး** ဆိုသည်မှာ | မပြောသည်မှာ မှန်ကန် ထင်ရှား သေချာခြင်း၊ ပြောမှုကို ငြင်းပယ်ခြင်းအနက် ရှိသည်။ |

မမြင်၊ မစား၊ မပြောဟု "**ဘူး**" မပါဘဲ သုံးလျှင်လည်းရသည်ပင် ဖြစ်သည်။

သို့ရာတွင် မမြင်**ဘူး**၊ မစား**ဘူး**၊ မပြော**ဘူး**ဟု ဆိုသဖြင့် မမြင်၊ မစား၊ မပြော သည်မှာ မှန်ကန်ထင်ရှား သေချာကြောင်း ပို၍ လေးနက်လာသည်။ ထို့ကြောင့် **ဘူး** ကို ငြင်းပယ်နက်ဖြစ်သော **မ** နှင့် တွဲ၍ သုံးရသည်။ ( **မ ... ဘူး**)

အချုပ်အားဖြင့်ဆိုသော်

ကြုံတွေ့သိမြင် ဖြစ်ပျက်ခဲ့ပြီး ထင်ရှားစေလိုက **ဖူး** ကိုသုံးရန်၊ ငြင်းပယ်သော အနက်ဖြင့် ကြိယာအထောက်အကူ ဖြစ်စေလိုက ငြင်းပယ်ခြင်းအနက်ရှိသည့် မနှင့်ယှဉ်၍ **ဘူး** ကို သုံးရန် ဖြစ်ပါသည်။

မမြင်**ဖူး**ဘူး။
မစား**ဖူး**ဘူး။
မပြော**ဖူး**ဘူး။
စသည်တို့တွင် **ဖူး** နှင့် **ဘူး** ခွဲထား အသုံးကို လေ့လာမှတ်သားနိုင်ပါသည်။

ဤပုံဖြင့် မှတ်မိရန် ခက်သေးသည် ဆိုငြားအံ့၊ "ချစ်**ဖူး** တယ်၊ ချစ်**ဖူး** တယ်၊ အိုမလွယ်**ဘူး** ရူးနိုင်တယ်" သီချင်းခွဲထားဖြင့် မှတ်ထားကြပါဘိ။

# အနက်စွဲ၊ အသံစွဲ

အနက်စွဲဆိုသည်မှာ အနက်စွဲအရေးကို ဆိုလိုပါသည်။ အနက်ရှိသော စကားလုံးကို မူလအတိုင်းရေးသော အရေးဖြစ်ပါသည်။ အသံစွဲဆိုသည်မှာ အနက်ရှိသော စကားလုံးကို မသုံးဘဲ အနက်ရှိသော စကားလုံးကို အသံဖလှယ် ထွက်ဆိုထားသည့် အနက်မရှိ အသံသာရှိသော စကားလုံးကို အသုံးပြုရေးထားသော အရေးဖြစ်ပါသည်။

မြန်မာဗျည်း (၃၃)လုံးတွင် ဝဂ်ဗျည်း(၂၅)လုံး ရှိပါသည်။ ဝဂ်ဗျည်း (၂၅)လုံးမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

**က၊ ခ၊ ဂ၊ ဃ၊ င**

**စ၊ ဆ၊ ဇ၊ ဈ၊ ည**

**ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ**

**တ၊ ထ၊ ဒ၊ ဓ၊ န**

**ပ၊ ဖ၊ ဗ၊ ဘ၊ မ**

မြန်မာဗျည်းတွင် **ပထမက္ခရာ** (ပထမ+အက္ခရာ) များဖြစ်ကြသော က၊ စ၊ တ၊ ပ၊ **ဒုတိယက္ခရာ** (ဒုတိယ+အက္ခရာ)များ ဖြစ်ကြသော ခ၊ ဆ၊ ထ၊ ဖ နှင့် ဝဂ္ဂန္တ(ဝဂ်အဆုံး)များ ဖြစ်ကြသော င၊ ည၊ န၊ မ တို့သာ အနက်ရှိသော အက္ခရာ များ ဖြစ်ကြသည်။ ၎င်း– ဝဂ် အက္ခရာ (၅)လုံး၊ **တတိယက္ခရာ**(တတိယ+ အက္ခရာ)များ ဖြစ်ကြသော ဂ၊ ဇ၊ ဒ၊ ဗ နှင့် **စတုတ္ထက္ခရာ**(စတုတ္ထ+ အက္ခရာ)များ ဖြစ်ကြသော ဃ၊ ဈ၊ ဓ၊ ဘ တို့ကား မြန်မာဘာသာတွင် အနက်မရှိသော အက္ခရာများ ဖြစ်ကြသည်။

တစ်နည်းဖော်ပြရသော် ဝဂ်ဗျည်း (၂၅)လုံးတွင် မြန်မာမှုအရ

**က၊ ခ၊ င**

**စ၊ ဆ၊ ည**

**တ၊ ထ၊ န**

**ပ၊ ဖ၊ မ**

ဟူသော ဗျည်း (၁၂)လုံးသာ အနက်ရှိသော ဗျည်းများ ဖြစ်ကြသည်။

ထို့ကြောင့် အဆိုပါဗျည်း (၁၂)လုံးကို အသုံးပြု၍ရေးလျှင် အနက်စွဲရေးနည်းဟု ဆိုရမည်။

**ဂ၊ ဃ**

**ဇ၊ ဈ**

**ဒ၊ ဓ**

**ဗ၊ ဘ**

ဟူသော ဗျည်း(၈)လုံးကား အနက်မရှိ အသံသာရှိသော ဗျည်းများဖြစ်ကြသည်။

| အနက်စွဲ | က၊ ခ | ကို | အသံစွဲ | ဂ၊ ဃ | ဖြင့်လည်းကောင်း |
|---|---|---|---|---|---|
| ။ | စ၊ ဆ | ။ | ။ | ဇ၊ ဈ | ။ |
| ။ | တ၊ ထ | ။ | ။ | ဒ၊ ဓ | ။ |
| ။ | ပ၊ ဖ | ။ | ။ | ဗ၊ ဘ | ။ |

အသံစွဲဖလှယ်ရေးကြသည်။

သာဓက။ ။

– လည်သော၊ ကျင်သောအရာဖြစ်သဖြင့် အနက်ရှိသည့်အတိုင်း **ကျင်** ဟု ရေးရမည် ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဂျင်** ဟု အသံစွဲ ရေးခြင်း

– ကော်ရသောအရာဖြစ်၍ **ကော်၊ ကော်ပြား** ဟု အနက်ရှိသည့်အတိုင်း ရေးရမည်ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဂေါ်၊ ဂေါ်ပြား**ဟု အသံစွဲရေးခြင်း

– စွဲမြဲဟူသောအနက်ရှိသဖြင့် **စွဲ** ဟုရေးရမည်ဖြစ်သော်လည်း **အသံထွက်** သည့်အတိုင်း **ဇွဲ** ဟု အသံစွဲရေးခြင်း

- အစေ့အဆန်ဟူသောအနက်ရှိသဖြင့် **စေ့၊ စိ** ဟုရေးရမည်ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဇိ** (ဇကုပ်၍ နတ်ပြည့်တင်)ဟု အသံထွက် ရေးခြင်း
- မြင့်မြတ်သည်ဟူသော အနက်ရှိသဖြင့် **တော်** ဟု ရေးရမည် ဖြစ်သော် လည်း အသံထွက်သည့်အတိုင်း **ဒေါ်** ဟု အသံစွဲရေးခြင်း
- ရပ်တည်ရာ စုဝေးရာအနက်ရှိသဖြင့် **တိုင်** ဟု ရေးရမည် ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဒိုင်** ဟု အသံစွဲရေးခြင်း
- အသံစည်ပြောသည်ဟူသော အနက်ရှိသဖြင့် **ပြော၊ ပြောစည်** ဟု ရေးရမည် ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဗြော၊ ဗြောစည်** ဟု အသံစွဲ ရေးခြင်း
- ဘာမျှမရှိ ပြောင်လင်းပွင့်လင်းသောဟူသော အနက်ရှိသဖြင့် **ပြောင်** ဟု ရေးရမည် ဖြစ်သော်လည်း အသံထွက်သည့်အတိုင်း **ဗြောင်** ဟု အသံစွဲရေးခြင်း

စသည်ဖြင့် အသံစွဲရေးထုံးများစွာရှိပေသည်။

သို့ရာတွင် ရေးထုံးကို ထိန်းသိမ်းသင့်သည်ဖြစ်၍ အသံထွက်သည့်အတိုင်း (အသံစွဲ) မရေးဘဲ အနက်ရှိသည့်အတိုင်း (အနက်စွဲ) ရေးသားကြသည်များလည်း ရှိသည်။

သာဓက။ ။

- **ဂါး**ဟု အသံထွက်သော်လည်း **ကား**(ငါးလုပ်ငန်းသုံး)ဟုသာ ရေးခြင်း
- **ဂုပ်၊ ဂုပ်ဆက်** ဟု အသံထွက်သော်လည်း **ကုပ်၊ ကုပ်ဆက်** ဟုသာ ရေးခြင်း
- **ဝွကျ** သည်ဟု အသံထွက်သော်လည်း **ခွကျ** သည်ဟုသာ ရေးခြင်း
- **ငွေ** ဟု အသံထွက်သော်လည်း **ခွေ** ဟုသာ ရေးခြင်း
- **ဇံရွေး** သည်ဟု အသံထွက်သော်လည်း **စံရွေး** သည်ဟုသာ ရေးခြင်း
- **ဇီးသီး** ဟု အသံထွက်သော်လည်း **ဆီးသီး** ဟုသာ ရေးခြင်း
- **ဒို့** ဟု အသံထွက်သော်လည်း **တို့** ဟုသာ ရေးခြင်း
- **ဒုတ်** ဟု အသံထွက်သော်လည်း **တုတ်** ဟုသာ ရေးခြင်း
- **ဒေါင့်** ဟု အသံထွက်သော်လည်း **ထောင့်** ဟုသာ ရေးခြင်း
- **ဗောင်းလန်** ဟု အသံထွက်သော်လည်း **ပေါင်းလန်** ဟုသာ ရေးခြင်း

– **ပြုန်းမြေ** ဟု အသံထွက်သော်လည်း **ဖြုန်းမြေ** ဟုသာ ရေးခြင်း စသည်တို့ ဖြစ်ပါသည်။

အချုပ်ဆိုသော်–

မည်သို့ပင် အသံထွက်စေကာမူ အနက်ရှိသည့်အတိုင်း အနက်ရှိသော စကားလုံးဖြင့်ရေးလျှင် အနက်စွဲရေးခြင်း၊ အနက်ရှိ အနက်စွဲ အက္ခရာကို အသံထွက်သည့်အတိုင်း ပြောင်းရေးလျှင် အသံစွဲရေးခြင်းဟု မှတ်ယူရန် ဖြစ်ပါသည်။

# **မိ ၊ မှီ**

ဟထိုးမဲ့ **မိ** နှင့် ဟထိုးရှိ **မှီ** ကို မှားရေးတတ်ကြသည်။ မှားရေးတတ်ကြသည့် အကြောင်းရင်းမှာ စကားပြောရာတွင်ဖြစ်စေ၊ စာဖတ်ရာတွင်ဖြစ်စေ **မိ** နှင့် **မှီ** အသံတူနေသောကြောင့် ဖြစ်သည်။ **မိ** ဟု ရေးသော်လည်း **မှီ** ဟု ပြောကြ၊ ဖတ်ကြသဖြင့် ဟထိုးမဲ့ **မိ** ကို ဟထိုးရှိ **မှီ** ဟု ထင်မှတ်မှားယွင်း ရေးသားကြခြင်း ဖြစ်သည်။

အမှန်စင်စစ် **မိ** နှင့် **မှီ** မရောထွေးသင့်။

**မိ** ကား **မိ** နှင့် အနက်ရင်းတူပါသည်။ ထိမိ၊ ဆက်စပ်၊ ပူးတွဲ၊ ပေါင်းယှဉ်၊ ညီမျှသည့် အနက်ဖြစ်ပါသည်။

ရှေ့မှပြေးသူကို လိုက်၍**မိ**သည်ဟု ဆိုရာတွင် လိုက်၍**မိ**သည် ဟူသော အနက်ဖြစ်သဖြင့် **မိ** သည်ဟုသာ ဟထိုးမဲ့ရေးရသည်။

အမြင့်တွင်၊ ဘေးတွင်၊ အနိမ့်တွင် ရှိနေသည့် အရာဝတ္ထု တစ်စုံတစ်ခုကို လက်လှမ်း**မိ**သည်ဟု ဆိုလျှင်လည်း လှမ်း၍**မိ**သည် ဟူသောအနက်ပင် ဖြစ်သဖြင့် ဟထိုးမဲ့ **မိ** နှင့်ပင် ရေးရသည်။

အချိန်**မိ**သည်တွင် **မိ** ၏အနက်မှာ ထိမိ၊ ဆက်စပ်၊ ပူးတွဲ၊ ပေါင်းယှဉ်၊ ညီမျှ အနက်ပင်ဖြစ်သည်။ သတ်မှတ်သောအချိန်နှင့် ထိမိဆက်စပ် ပေါင်းယှဉ် ညီမျှသည်ဟု ဆိုလိုသည်။ မလျော့မပို ဖြစ်သည်ဟု ဆိုလိုသည်။ ထို့အတူပင် ရထား**မိ**သည်၊ ရထားချိန်**မိ**သည်၊ ကျောင်း**မိ**သည်၊ ကျောင်းချိန်**မိ**သည် စသည် တို့၌လည်း နည်းတူဖြစ်သည်။ စံချိန်**မိ**သည်၊ စံ**မိ**သည်ဆိုသည်မှာ စံနှင့်မလျော့မပို ဖြစ်သည်။ စံနှင့်ကိုက်ညီသည်ပင် ဖြစ်သည်။ ခေတ်**မိ**သည်ဆိုသည်မှာ ခေတ်နှင့် ကိုက်ညီသည်၊ ခေတ်နှင့် လိုက်လျောညီထွေ ရှိသည်ဟု ဆိုလိုသည်။ ၁၅– ရက် နေ့ အ**မိ**ဆိုရာ၌လည်း ၁၅–ရက်နေ့ကို မကျော်မလွန် မပိုစေဘဲ၊ ၁၅– ရက်နေ့နှင့် ကိုက်ညီစွာဟုပင် ဆိုလိုပေသည်။

ထို့ကြောင့်လည်း မြန်မာစာအဖွဲ့က ပြုစုထုတ်ဝေသော မြန်မာအဘိဓာန်တွင် **မိ** ကို "**မိ**၊ ကြိ– လှမ်း၍ ရောက်နိုင်၊ ထိနိုင်သည်။ တိုင်ရောက်သည်"ဟု အနက် ဖွင့်ဆိုထားခြင်း ဖြစ်သည်။

အချုပ်ဆိုသော် **မီ**သည့်အနက်၊ တူညီ၊ ကိုက်ညီ၊ ညီမျှသည့် အနက်ကို ဆိုလိုပါက ဟထိုးမဲ့ **မီ** ကို အသုံးပြုရန် ဖြစ်ပါသည်။

ခေတ်**မီ**သည်၊ စံ**မီ**သည်၊ ရထား**မီ**သည်၊ လိုက်**မီ**သည်၊ လှမ်း**မီ**သည်၊ အချိန် **မီ**သည် စသည်တို့ကဲ့သို့သော ကြိယာဖြစ်သော **မီ** အကြောင်းကို ရှင်းလင်းပြီးနောက် ပစ္စည်းစကားလုံးဖြစ်သော **မီ** အကြောင်းကို ရှင်းလင်းရန် ရှိပေသည်။

ယင်း **မီ** ကို **မ** နှင့် တွဲ၍ သုံးလေ့ရှိသည်။ မကြာ**မီ**၊ မစား**မီ**၊ မပြော**မီ**၊ မလာ**မီ**၊ မသွား**မီ** စသည်ဖြင့် သုံးသည်။ **ခင်** ဟူသောစကားနှင့် ဖလှယ်၍ သုံးနိုင်သည်။ မကြာ**ခင်**၊ မစား**ခင်**၊ မပြော**ခင်**၊ မလာ**ခင်**၊ မသွား**ခင်** ဟူ၍ဖြစ်သည်။ ကြိယာ **မီ** ၏ အနက်ဖြစ်သည့် ထိမိ၊ တိုင်ရောက်သည့် အနက်ပင်ဖြစ်သည်။ မကြာ**မီ**ဆိုသည်မှာ ကြာသည့်ကာလသို့ မတိုင်ရောက်သေးဘဲ ဟူသောအနက် ဖြစ်သည်။ မပြော**မီ**၊ မလာ**မီ**၊ မသွား**မီ** စသည်တို့တွင်လည်း ပြောခြင်း၊ လာခြင်း၊ သွားခြင်းသို့ မတိုင်ရောက်သေးဘဲ ဟူသော အနက်ပင်ဖြစ်သည်။

ထို့ကြောင့်လည်း မြန်မာအဘိဓာန်တွင် "**မီ**၊ စည်း–"မ" နှင့်တွဲ၍ အချိန် မတိုင်သေးခင် အနက်ဖြင့် ထောက်ပံ့သောစကားလုံး"ဟု အနက်ဖွင့်ဆိုထားခြင်း ဖြစ်ပေသည်။

ဟထိုးရှိ **မှီ** ၏အနက်မှာ **မှီ**စေသည်၊ **မှီ**အောင်ပြုသည် ဟူသောအနက် ရှိပေသည်။ တိုင်ကို**မှီ**သည်ဟုဆိုသည်မှာ တိုင်နှင့်ထိအောင် မိအောင်ပြုသည်၊ တိုင်ကိုမိစေသည်၊ တိုင်ကို **မှီ**စေသည်ပင်ဖြစ်သည်။ အရာဝတ္ထုတစ်ခုခု၊ အကြောင်းအရာ တစ်ခုခုတွင် မိမိရရ တွယ်ကပ် ချိတ်ဆွဲ ထိမိစေသည်ကိုပင် **မှီ**သည်ဟု ဆိုသည်။

ထို့ကြောင့် မြန်မာအဘိဓာန်တွင် "**မှီ**၊ ကြိ–၁၊ တစ်စုံတစ်ရာကို ယှဉ်ကပ် အားပြုသည်။ ၂၊ အားကိုးအားထား ပြုသည်"ဟု အနက်ဖွင့်ဆိုထားပေသည်။ ဟထိုးရှိ **မှီ** ကို "**မှီ**ခိုသည်၊ **မှီ**ငြမ်းပြုသည်၊ **မှီ**တင်းသည်၊ **မှီ**ဝဲသည်၊ **မှီ**အုံး" စသည်ဖြင့် သုံးစွဲလေ့ရှိသည်။

**ရှေးထုံးငယ်စံမီ၊ မှီငြမ်းငယ်ပြုပါလို့။**
**မီနှင့်မှီ မရှုပ်ထွေးအောင်၊ ရေးကြပါစို့။**

# **မင်** နှင့် **မြား**

**မင်** ကို မှင် ဟု အသံထွက်သဖြင့် **မှင်** ဟု ရေးမှားခြင်း၊ **မြား** ကို မျှားဟု အသံထွက်သဖြင့် **မြှား၊ မျှား** ဟု ရေးမှားခြင်းများကို မကြာမကြာ မြင်တွေ့နေရပါသည်။

မြန်မာစာအဖွဲ့က ပြုစုထုတ်ဝေသော မြန်မာစာလုံးပေါင်းသတ်ပုံကျမ်းတွင် **မင်** နှင့်ဆိုင်သော ဝေါဟာရများနှင့် ပတ်သက်၍ "**မင်**ကြောင်ထိုး၊ **မင်**ခံစက္ကူ၊ **မင်**ရည်၊ **မင်**သေ့၊ **မင်**အိုး**မင်**တံ"ဟူသော ဝေါဟာရများကို ဟထိုးမဲ့ **မင်** နှင့် ရေးရန်ပြထားပါသည်။

မြန်မာအဘိဓာန်တွင်လည်း " **မင်**၊ **မင်**ကျ**မင်**န၊ **မင်**ကြောင်၊ **မင်**ခံစက္ကူ၊ **မင်**စာ၊ **မင်**နှိပ်စက္ကူ၊ **မင်**သေ့" ဟူသော ဟထိုးမဲ့ **မင်** ဝေါဟာရတည်ပုဒ်များကို ထည့်ပြပြီး အဓိပ္ပာယ် ဖွင့်ဆိုထားပါသည်။

**မင်** ၏အနက်မှာ စွဲလမ်း၊ စွန်းထင်း ဖြစ်သည်။ **မင်** ဆိုသည်မှာ စွဲလမ်း၊ စွန်းထင်းသောအရာ ဖြစ်သည်ဟု ဖွင့်ကြသည်။ မြန်မာစကားပင် ဖြစ်သည်ဟူ၍လည်းဆိုကြသည်။ အချို့ကမူ **မင်၊ မဲ၊ မည်း** အနက်တူယူ၍ အနက်ရောင်၌ ရှိသောအရာဟုလည်း အနက်ဖွင့်ကြသည်။ မှားသည်ဟု မဆိုသာပါ။ သို့ရာတွင် သက္ကတ /ပါဠိ **မသိ** ပုဒ်မှ လာသည်ဟူသော အဆိုမှာလည်း အတော်အားကောင်းပါသည်။ **မသိ** မှ မံသိ၊ မင်သိ၊ မံ/မင် ဖြစ်လာသည်ဟု ဆိုသည်။ ရှေးအရေးများတွင် **မံ** အရေးအတော်များခဲ့သည်။ ဟိန္ဒီတွင်လည်း သက္ကတသို့လိုက်၍ **မသိ** ဟုပင် ရေးသည်။ သက္ကတ/ ပါဠိပုဒ် **မသိ** မှ လာသည်ဟူသော အယူအဆကို လက်ခံ နိုင်ဖွယ်ရှိပါသည်။

ထို့ကြောင့်လည်း မြန်မာအဘိဓာန်တွင် **မင်**ကို "ရေးခြစ်၊ ပုံနှိပ်၊ ထိုးနှံ့ရာတွင် သုံးသော အရောင်ရှိ အရည်၊ အစေး"ဟု ဖွင့်ပြပြီး ရင်းမြစ်စကားကို ပါဠိပုဒ် **မသိ**ဟု ဖော်ပြထားပါသည်။

မည်သည့်ဝေါဟာရက လာသည်ဖြစ်စေ **မင်**အိုး၊ **မင်**တံ၊ **မင်**ရည်တို့မှ **မင်**တွင် ဟထိုးပါရန် မလိုသည်မှာ ထင်ရှားပါသည်။ **မင်** ဟု ဟထိုးမဲ့ ရေးပြီး **မှင်** ဟု ဟထိုးရှိသံဖြင့် အသံထွက်ခွင့်ကား ရှိပါသည်။ ခေတ်**မီ**၊ မကြာ**မီ**၊ အချိန်**မီ** စသည်တို့ကို ခေတ်**မှီ**၊ မကြာ**မှီ**၊ အချိန်**မှီ** စသည်ဖြင့် အသံထွက်နေကြသည့် နည်းတူပင်ဖြစ်သည်။

ဟထိုးမဲ့ရေးရပြီး ဟထိုးရှိသံဖြင့် ပြောဆိုရွတ်ဖတ်ကြရသော အခြားစကား တစ်လုံးမှာ **မြား** ဖြစ်သည်။ လေးမြား လက်နက်မှ **မြား** ကို ဆိုလိုပါသည်။

**မြား** ကို **မ** တွင် ရရစ်လျက် ဟထိုးမပါ ရေးရိုးဖြစ်သည်။ ရှည်လျားဖြောင့်စင်း အနက်ရှိသော **မား**ဟူသော ပုဒ်နှင့် အနက်ဆက်နွယ်သည်။ ရှည်လျားဖြောင့်စင်းသော အချောင်းအတံကို **မြား** ဟု ခေါ်ဆိုခြင်း ဖြစ်သည်။

"**မြား**အတွင်း ကားမရပ်ရ" ဟု ရေးရမည့်အစား "**မျှား**အတွင်း ကားမရပ် ရ"ဟု ရေးမှားကြသည်။ အမှန်ရေးဖို့ သတိရှိသင့်ကြသည်။

ထုပ်လျောက် ဒိုင်း**မြား**မှ **မြား** ကိုလည်း ဟထိုးမဲ့ပင် ရေးရသည်။ ပစ်သော **မြား**နှင့် အနက်သဘောချင်း တူသည်။ မြန်မာအဘိဓာန်တွင် **မြား**ကို အနက်(၂)ခု ပေးသည်။ "၁၊ လေးညို့၏ ကန်အားဖြင့် ပစ်လွှတ်ရသော အဖျားချွန်ထက်သည့် လက်နက်။ ၂၊ အခြင်တင်ရန် ဒိုင်းများပေါ်တွင် ကန့်လန့်ရိုက်ထားသောတန်း။"

လက်နက်လေး**မြား**တွင် **မြား**ကို **မ** တွင်ရစ်လျက် ရေးရသော်လည်း **မ** တွင် ယပင့်ဟထိုးယှဉ်လျက် **မျှား** ဟူသော အရေးလည်း ရှိသေးသည်။ မယပင့် ဟထိုး "**မျှား**"ကို **မျှား**၍ခေါ်သည်၊ ငါး**မျှား**သည်၊ ငါး**မျှား**ချိတ် တို့တွင်သုံးသည်။

**မင်သေ့နှင့်မင်၊ ရေးလိုလျှင်၊ မတွင် ဟထိုးမဲ့။**
**ထုပ်လျောက် ဒိုင်းမြား၊ လေးနှင့်မြား၊ မခြားနည်းတူ၊ ဟမကူ၊ ရေးမူစပ်ထုံးဖွဲ့။**

# မလိုအပ်ဘဲ ပိုတတ်သော ရေးချ

မြန်မာစာ စာလုံးပေါင်းသတ်ပုံတွင် ဝင်ရောက်နှောင့်ယှက်နေသော အရေးတစ်ခုမှာ မလိုအပ်ဘဲ ပိုတတ်သော ရေးချ ဖြစ်ပါသည်။

မလိုအပ်ဘဲ ပိုတတ်သော ရေးချတစ်ခုမှာ **ပတ်**တွင်ပါတတ်သော ရေးချ ဖြစ်သည်။

သီတင်းတစ်**ပတ်**၊ နှစ်**ပတ်**လည်၊ သုံးလ**ပတ်**၊ **ပတ်**ဝန်းကျင်၊ **ပတ်**သက်သည် စသည်တို့ကို သီတင်းတစ်**ပါတ်**၊ နှစ်**ပါတ်**လည်၊ သုံးလ**ပါတ်**၊ **ပါတ်**ဝန်းကျင်၊ **ပါတ်**သက်သည် စသည်ဖြင့် ရေးများတတ်ကြသည်။

**ပတ်**၏အနက်မှာ လည်သည်၊ လှည့်သည်၊ ရစ်သည်၊ ဝိုက်သည်၊ ဝိုင်းဝန်း သည် တို့ဖြစ်သည်။ မြန်မာစကား စစ်စစ်ဖြစ်ပြီး ရေးသောအခါ ရေးချမလိုသော စကားလုံးဖြစ်သည်။

သီတင်းတစ်**ပတ်**၊ ရက်သတ္တတစ်**ပတ်**ဆိုသည်မှာ ၇–ရက်၊ ၇–နေ့တွင် စသောနေ့တစ်နေ့မှ နောက်တစ်ဖန် ထိုနေ့သို့ ထပ်မံလည်ပတ် ရောက်ရှိလာသော ကာလကို ဆိုလိုသည်။ တစ်နည်းအားဖြင့် ၇–ရက် ပတ်မိသော၊ ၇–ရက်လည်သော ကာလကို ဆိုလိုသည်။

နှစ်**ပတ်**လည် ဆိုသည်မှာလည်း ၁၂–လတွင် စသော လတစ်လလမှ နောက်တစ်ဖန် ထိုလသို့ ထပ်မံလည်ပတ် ရောက်ရှိသော ကာလကိုပင် ဆိုလိုသည်။ တစ်နည်းအားဖြင့် ၁၂–လပတ်မိသော၊ ၁၂–လလည်မိသော ကာလပင် ဖြစ်သည်။

သုံးလ**ပတ်**၊ လေးလ**ပတ်** စသည်တို့သည်လည်း သုံးလပတ်မိသော၊ လေးလ ပတ်မိသော အချိန်ကာလပင် ဖြစ်သည်။

**ပတ်ဝန်းကျင်** ဆိုသော စကားသည် **ပတ်**၊ **ဝန်း**၊ **ကျင်** ဟူသော စကားလုံး သုံးလုံးကို ပေါင်းစပ်ဖွဲ့စည်းထားသော စကားဖြစ်သည်။ အနက်တူသော စကား သုံးလုံး ဖြစ်သည်။ **ပတ်** သည်လည်း လည်၊ လှည့်၊ ရစ်၊ ဝိုင်းအနက်၊ **ဝန်း** သည်လည်း လည်၊ လှည့်၊ ရစ်၊ ဝိုင်း အနက်၊ **ကျင်** သည်လည်း လည်၊ လှည့်၊ ရစ်၊ ဝိုင်း အနက်ပင် ဖြစ်သည်။ လှည့်လည်ရစ်ဝိုင်းလျက် ရှိသော နေရာဒေသ၊ အချိန်ကာလကိုပင် **ပတ်ဝန်းကျင်** ဟု ဆိုသည်။

**ပတ်သက်** သည်ဆိုသော စကားတွင်လည်း **ပတ်** မှာ ရစ်လည်သည်၊ စပ်ဆိုင်သည် ဟူသော အနက်ပင်ဖြစ်သည်။

ရှာတစ်**ပတ်**၊ ကျောင်းတစ်**ပတ်**၊ **ပတ်**ကုံးဝန်းကျင်၊ အအေး**ပတ်**သည် စသည်တို့ကဲ့သို့သော စကားများမှ **ပတ်** သည်လည်း လည်**ပတ်**၊ ရစ်**ပတ်** အနက်ပင် ဖြစ်သည်။

အချုပ်အားဖြင့်ဆိုသော် မြန်မာစကား **ပတ်** တွင် ရေးချပါရန် မလိုပါ။

သို့ရာတွင် **ပ** တွင် ရေးချလျက် တ သတ်ရသော **ပါတ်** အရေးများလည်း ရှိသည်။ ယင်းတို့ကား မြန်မာစကားများ မဟုတ်ကြ။ ပါဠိသက် စကားများသာ ဖြစ်ကြသည်။

နိ**ပါတ်**တော်၊ ပါဏာတိ**ပါတ်**၊ ပိဏ္ဍ**ပါတ်**၊ **ဥပ္ပါတ်**ပျံသည် စသည့်စကားများ ဖြစ်ကြသည်။

ယင်းတို့တွင် နိပါတ်တော်မှ နိပါတ်ကား ပါဠိ **နိပါတ**ပုဒ်တည်း။

ပါဏာတိပါတ်ကား ပါဠိ **ပါဏာတိပါတ**၊ ပိဏ္ဍပါတ်ကား ပါဠိ **ပိဏ္ဍပါတ**၊ ဥပ္ပါတ်ပျံသည်မှ ဥပ္ပါတ်ကား ပါဠိ **ဥပ္ပါတ** တို့ ဖြစ်ကြသည်။

မလိုအပ်ဘဲ ပိုတတ်သော ရေးချများကို ဘေးဥပဒ်၊ မဏ္ဍာပ်၊ ဒဏ်၊ အရဏ်ကျင်း၊ ကန်း၊ အနာဂတ် ဟူသော စကားများကို ရေးရာ၌လည်း တွေ့ရတတ်သည်။ ဘေးဥပ**ါ**ဒ်၊ မဏ္ဍ**ာ**ပ်၊ ဒ**ါ**ဏ်၊ အ**ာ**ရဏ်ကျင်း၊ က**ာ**န်း၊ အနာဂ**ါ**တ်ဟူ၍ ရေးကြခြင်းမှာ မလိုအပ်ဘဲ ရေးချ ပိုနေခြင်းပင်ဖြစ်သည်။

**ဥပဒ် (ဘေး)**။ ဥပဒ်မှာ ပါဠိသက်ပုဒ် ဖြစ်သည်။ ပါဠိတွင် **ဥပဒ္ဒဝ**ဟု ရှိသည်။ ဥပဒ္ဒဝသည် ဘေး၊ ဘေးရန်၊ အန္တရာယ်ကို ဆိုလိုသည်။ ဥပဒ္ဒဝ ပုဒ်သက် ဖြစ်သဖြင့် ဥပဒ်ဟုသာ ရေးရသည်။ ပ– တွင် ရေးချ မထည့်ရပါ။ (ဥပါဒ်ငြိဘင် မှ ဥပါဒ်ကား ဥပ္ပါဒ ပုဒ်သက် ဖြစ်သဖြင့် ပ တွင် ရေးချပါရသည်။)

**မဏ္ဍပ်**။ ပါဠိတွင် **မဏ္ဍပ** ဟုရှိသည်။ အကာမဲ့ ယာယီအဆောင်ဟု အဓိပ္ပာယ်ရသည်၊ **မဏ္ဍပ** ပုဒ်သက်ဖြစ်သဖြင့် **မဏ္ဍပ်**ဟု ရေးချမပါဘဲ ရေးရသည်။

**ဒဏ်**။ ဒဏ်ခတ်သည်၊ ဒဏ်တပ်သည်၊ ဒဏ်ပေးသည်၊ ဒဏ်ရိုက်သည်၊ ဒဏ်ကြေး၊ ကြိုးဒဏ်၊ ထောင်ဒဏ်၊ သဲဒဏ်၊ ရေဒဏ်၊ အပြစ်ဒဏ်၊ ဘေးဒဏ်၊ ဒဏ်ရာဒဏ်ချက် စသည်တို့ကို **ဒ** တွင် ရေးချမပါဘဲ **ဒဏ်** ဟုသာ ရေးရသည်။ ပါဠိတွင် **ဒဏ္ဍ** ဟူသော ပုဒ်ရှိသည်။ ဒဏ္ဍသည် တုတ်၊ တုတ်တံ၊ အရိုးတံ၊ အပြစ်ပေးခြင်း စသည့်အနက်များရှိသည်။ **ဒဏ္ဍ** ပုဒ်သက်ဖြစ်၍ ဒ တွင် ရေးချမပါဘဲ **ဒဏ်**ဟုသာ ရေးရသည်။ ကနက္ကဒဏ်ထီးကို ရေးရာတွင်လည်း ဒဏ် တွင် ရေးချမပါရချေ။ **ကနက** = ရွှေ + **ဒဏ္ဍ** = အရိုး၊ ရွှေအရိုးတပ်ထီးဟု ဆိုလိုသည်။ ကနကဒဏ်မှ မြန်မာမှုအရေးတွင် ကနက္ကဒဏ် ဖြစ်လာသည်။

**အရဏ်**။ နေအရဏ်၊ အရဏ်ကျင်းပြီ၊ အရဏ်ဆွမ်း စသည်တို့တွင် **အ** သရဖြင့်သာ **အရဏ်** ဟု ရေးရသည်။ **အာ**သရဖြင့် **အာရဏ်** ဟု မရေးရ။ **အ** တွင် ရေးချမပါရ။ ပါဠိတွင် **အရုဏ** ဟူသော ပုဒ်ရှိသည်။ ပါဠိ အရုဏသည် အမှောင်ပျောက်ပြီး ရှေးဦးတက်လာသော ရောင်နီ၊ ရောင်နီလာချိန်ကို ဟောသည်။ **အာရဏ်**ဟု **အ** တွင် ရေးချပြီး ရေးမှားကြသည်မှာ ပြောဆို ရွတ်ဖတ်ရာတွင် "အာယုန်"ဟု ပြောဆိုရွတ်ဖတ်နေကြသောကြောင့် ဖြစ်သည်။ မြန်မာအဘိဓာန်တွင် **အရဏ်** ကို "**အရဏ်**/အာယုန်/န၊ နေမထွက်မီ အရှေ့အရပ်မှ ဦးစွာ ဖြစ်ပေါ်သော ရှေ့ပြေးအလင်းရောင်။ [ ပါ၊ အရုဏ] "ဟု ဖွင့်ဆိုထားသည်။

**ကန်း**။ မျက်စိကာန်းသည်ဟု ရေးမှားတတ်ကြသည်။ ပါဠိတွင် မျက်စိတစ်ဖက်ကန်းဟော **ကာဏ**ဟူသော ပုဒ်ရှိသဖြင့် ပါဠိ ကာဏ ပုဒ်သက်ဟု ယူလို ကြသည်။ **ကန်း** သည် ဆိုသော စကားမှာ မြန်မာစကားစစ်စစ်ဖြစ်သည်။ ရေ၊ အရည်ကုန်ပျောက်၊ ခြောက်ခန်းသည်ကိုပင် **ကန်း** သည်ဟု ဆိုသည်။ ကန်းနှင့် ခန်း အနက် ဆက်နွယ်သည်။ မျက်စိထဲတွင် မြင်စေတတ်သော အရည်ခန်းလျက် မမြင်နိုင်ဘဲရှိသည်ကိုပင် မျက်စိကန်းသည်ဟု ဆိုသည်။ ရေတွင်းတွင် ရေမရှိဘဲ ခြောက်ခန်းသည်ကိုပင် ရေတွင်းကန်းသည်ဟု ဆိုသည်။ **က** တွင် ရေးချမပါဘဲ **ကန်း** ဟုသာ ရေးရသည်။

**အနာဂတ်**။ ပါဠိ **အနာဂတ** ပုဒ်သက်ဖြစ်သည်။ မလာရောက်သေးသော၊ နောင်လာလတ္တံ့သော ဟူသော အနက်ကိုဟောသည်။ ထို့ကြောင့် မလာရောက် သေးသောကာလ၊ နောင်လာလတ္တံ့သော ကာလကို ရေးလိုလျှင် အနာဂတ်ကာလ၊ **အနာဂတ်** ဟု ရေးရသည်။ **ဂ** ငယ်တွင် ရေးချထည့်၍ **အနာဂါတ်** ဟု ရေးလျှင် မှားသည်။

**မလိုအပ်ဘဲ၊ ပိုတတ်သည့် ရေးချကို၊ ။**
**မမှားအောင် သတိချပ်၊ ရေးတတ်စေလို၊ ။**
**ပတ်ဝန်းကျင်၊ ဘေးဥပဒ်နှင့်၊**
**ဒဏ်ခတ်သည့် ဒဏ်ထိုထို၊ မဏ္ဍပ်ဆိုတစ်ဝ။**
**မျက်ကန်းငယ်တစ်ဖြာ၊ အရဏ်လာ အရဏ်တက်ကယ်နှင့်၊**
**အနာဂတ်ဆို နောင်ခါတွက်ကိုလ၊**
**ရေးချတွေ ပိုမစွက်ပါနှင့်၊**
**စဉ်ဆက်ရေးကြ။ ။**

# ဖြည်းဖြည်း

ယာဉ်လမ်းညွှန် ဆိုင်းဘုတ်များတွင် “**ဖြေးဖြေးမောင်း**” ဟူ၍ လည်းကောင်း၊ “**ဖြည်းဖြည်းမောင်း**”ဟူ၍ လည်းကောင်း နှစ်မျိုးရေးနေကြသည်။ ထိုနှစ်မျိုးတွင် “**ဖြည်းဖြည်းမောင်း**”ဟု ရေးပါမှ စာလုံးပေါင်းသတ်ပုံရေးထုံးနှင့် ညီပါမည်။

**ဝဏ္ဏဗောဓနသတ်အင်း၊ ကဝိလက္ခဏာသတ်ပုံသံပေါက်၊ကဗျာသာရတ္ထသင်္ဂဟ** တို့မှစ၍ အစဉ်အဆက် သတ်ပုံကျမ်း အစောင်စောင်၊ နောက်ဆုံး မြန်မာစာလုံးပေါင်း သတ်ပုံကျမ်းအထိ သတ်ပုံကျမ်းများတွင်“ဖြည်းဖြည်း” ဟုသာ ရေးထုံးပြုခဲ့ပါသည်။

ဝဏ္ဏဗောဓနသတ်အင်းတွင် “ပျပျဖြည်းဖြည်း၊ သာသာဖြည်းဖြည်း”ဟု ပြထားသည်။ ကဝိလက္ခဏာသတ်ပုံ သံပေါက်တွင်လည်း “နာပျော်ဖွယ်ချည်း၊ သံခြည်းခြည်း၊ ဖြည်းဖြည်းညင်းညင်းဆို”ဟူ၍ ပြထားသည်။

ကဗျာသာရတ္ထ သင်္ဂဟတွင် "ဖြည်းညင်းဖြည်းညှံ့၊ ပျံ့ဖြည်းသာဖြည်း၊ တဖြည်းဖြည်းလျှင်၊ ရစ်နည်းစေ့စပ်"ဟူ၍ မှာထားသည်။

အဆိုပါသတ်ပုံဆရာကြီးများက"ဖြည်းဖြည်း"ဟု အရစ်ညသတ်ဖြင့် ပြဋ္ဌာန်းခဲ့ကြသည်မှာလည်း ရှေးကဗျာလင်္ကာ အစပ်အဟပ် အကိုးအထောက် အညွှန်းအပြ ရှိခဲ့သဖြင့်သာ ဖြစ်ပေသည်။

ထင်ရှားသော အကိုးသာဓက တစ်ခုနှစ်ခု ထုတ်ပြရလျှင်–

အဘယ်ရွာက၊ လာသနည်းဟု၊ ဖြည်းဖြည်း မေးတော်မူလတ်တည်း။

[ ၈၄၆၊ ဘူရိဒတ်လင်္ကာ၊ ပိုဒ်– ၁၂၁။ ]

ပူဟုန်မသည်း၊ ပျံ့ပျံ့ဖြည်းသား၊ တိမ်မည်းမဆိုင်။

[ ၈၅၉၊ ဂါထာခြောက်ဆယ်ပျို့၊ ပိုဒ်– ၁၂။ ]

ရေိုက်ခြည်းခြည်း၊ ဖြည်းဖြည်းညင်းညင်း၊ သာချင်းရတု။

[ ၈၉၁၊ သံဝရပျို့၊ ပိုဒ်–၁၆၈ ]

စသည်တို့ ဖြစ်ပါသည်။

**ဖြည်းဖြည်း** ဟု ရေးသော်လည်း **ဖြေးဖြေး** ဟု အသံထွက်ကြပါသည်။ ထို့ကြောင့်လည်း မြန်မာအဘိဓာန်တွင် "ဖြည်းဖြည်း" ဟူသော ဝေါဟာရကို "**ဖြည်းဖြည်း** /ဖျေးဖျေး / ကြိဝိ၊ အမြန်မဟုတ်ဘဲ"ဟု ပြထားခြင်း ဖြစ်ပါသည်။ မြန်မာစာလုံးပေါင်းသတ်ပုံကျမ်းတွင်လည်း "ဖြည်းညင်း၊ ဖြည်းဖြည်းဆေးဆေး၊ ဖြည်းသုတ်"ဟူသော ဝေါဟာရများကို ဖ တွင် ရရစ် ညသတ်လျက် ပြထားပါသည်။ **ဖြေး** ဟူသော အရေးပြမထားပါ။

သို့ဖြစ်ရာ ကားမောင်းနေသော ပုဂ္ဂိုလ်တစ်ဦးသည် "ဖြည်းဖြည်းမောင်း" ဟူသော ဆိုင်းဘုတ်ကိုလည်း တွေ့ရ "ဖြေးဖြေးမောင်း"ဟူသော ဆိုင်းဘုတ်ကိုလည်း တွေ့ရသဖြင့် "ဘယ်ဟာမှန်ပါလိမ့်"ဟု အတွေးမဝင်ရလေအောင် "ဖြည်းဖြည်းမောင်း" ဟူသော "ထုံးမီစံမျှ အရိုးကျသက်သေရ သဘောမိ" သတ်ပုံမှန်ကိုသာ စွဲမြဲစွာ မှတ်ထား ရေးသားနိုင်ကြပါစေသတည်း။

**ဖြည်းဖြည်းဟူသမျှမှာ၊ ရစ်လျက်သာ ညသတ်ဘိ။**
**သဝေထိုးကာ တဖြေးဖြေး၊ ရေးထုံးမရှိ။**

# ရောထွေးတတ်သော **ကာ** နှင့် **ခါ**

**ကာ**နှင့် **ခါ**သည် အရေးမတူသော်လည်း အသံထွက် တူတတ်သောကြောင့် ရေးရာ၌ ရောထွေးတတ်သည်။

**တစ်ပြိုင်နက်ဖြစ်စေ၊ ဆက်တိုက်ဖြစ်စေ** ဖြစ်ပျက်ကြောင်းကို ပြလိုသော် **ကာ** ကို သုံးသည်။

- အိပ် **ကာ** စား **ကာ** နေသည်။
- ရယ် **ကာ** မော **ကာ** ပြောသည်။
- ဆေးလိပ်ကိုက် **ကာ** စာဖတ်သည်။

**အချိန်၊ အခါ၊ ကာလ** တို့ကို ပြလိုသော် **ခါ** ကို သုံးသည်။

- ငယ်စဉ်အ**ခါ** ပညာမရှာလျှင် ကြီး**ခါ**မှ နောင်တရမည်။
- ပန်းများကိုဆုပ်**ကာ**၊ ကြဲပြီးသောအ**ခါ**လျှင် ...

– ဘ၀ မွန်းတိမ်းချိန်ရောက်**ခါ**မှ ...

– လက်ဖျားကိုင်**ကာ**၊ လှူသော**ခါ**လည်း၊ မျက်ပါမရှိ ...

– အလွမ်းထပ်**ကာ**၊ ခုချိန်**ခါ**ကို၊ လေပါမိုးနှင့် ...

– ရွှေချည်ပေါင်တုံး**ခါ**မှ၊ မောင်ဖုန်းပြန်ခဲ့မယ်။

– ရောက်**ခါ**နီး

– ဖြစ်**ခါ**နီး

## မှားတတ်သော ပါဠိပါဌ်ဆင့်စာလုံးများ

‘ဏကြီး၊ နငယ်’တို့ အောက်က ‘ဋ၊ ဌ၊ ဍ၊ တ၊ ဒ’ တို့ကို ဆင့်၍ ရေးရသော ပါဠိစကားလုံးများ ရှိသည်။ ထိုပါဠိစကားလုံးများကို ရေးရာတွင် ပါဠိဘာသာနှင့် အကျွမ်းမဝင်သည့်အတွက် စာလုံးပေါင်းများတတ်သည်။

ကဏ္ဋကောစ = ဆူးငြောင့်၊ ရန်လုပ်ခြင်း၊ နှောင့်ယှက်ခြင်း
ကဏ္ဌဋ္ဌာန် = လည်ချောင်းအရပ်
ကဏ္ဍ = အပိုင်း၊ အခန်း
ကဏ္ဍကမြင်း = သိဒ္ဓတ္ထမင်းသား၏ ဖွားဖက်တော်မြင်း
ကဏ္ဏသုခ = နားဝင်ချိုခြင်း
ကန္တာရ = ခက်ခဲသောခရီး၊ ခရီးခဲ
ကန္ဒရဝတီ = ချောက်၊ ဂူ၊ လိုဏ်ပေါ်များသောဒေသ
ဂဏ္ဌိ = ခက်ဆစ်အဖွင့်ကျမ်း
ပဏ္ဍိတ = ပညာရှိ
ပဏ္ဍုကမ္ဗလာ = သိကြားမင်းစံရာ ကျောက်ဖျာ

# သဒ္ဒါအသုံးအနှုန်း

**“မှ၊ က၊ ကို၊ အား၊ များ၊ တို့၊ တွေ”** စသည်တို့သည် သဒ္ဒါစကားလုံးများ ဖြစ်သည်။ “သူ **က** ပြောတယ်” နှင့် “သူ့ **ကို** ပြောတယ်” ဟူသော ဝါကျ(၂) ခုသည် အဓိပ္ပာယ် ကွာခြားသည်။ ယင်းသို့အဓိပ္ပာယ် ကွာခြားခြင်းမှာ **က** နှင့် **ကို** သဒ္ဒါ အသုံးကွဲပြားသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ထိုသဒ္ဒါစကားလုံးများကို သူ့နေရာနှင့်သူ နေရာတကျသုံးရသည်။ နေရာတကျသုံးမှ အနက်အဓိပ္ပာယ် တိကျသည်။ ရှင်းလင်းသည်။ လိုရင်းရောက်သည်။

ထိုသဒ္ဒါစကားလုံး အသုံးလွဲမှားနေလျှင် အနက်အဓိပ္ပာယ် ထွေပြားတတ်သည်။ ရှုပ်ထွေးတတ်သည်။ လိုရင်းမရောက် ဖြစ်တတ်သည်။ ထို့ကြောင့် သဒ္ဒါ အသုံးအနှုန်းကို ဂရုစိုက်ရသည်။

## ရောထွေးတတ်သော မှ နှင့် က

**ထွက်ခွာရာ** ကိုရည်ညွှန်းလိုသော် **က** ကို **နှုတ်ပြော**တွင်ရော **အရေး** တွင်ပါသုံးသည်။

ဘယ်**က** လာသလဲ။ ဈေး**က** လာတယ်။
အရပ်လေးမျက်နှာ**က** လာသောသူ
မြို့**က** လာသည်။ တော**က** လာသည်။
ဗွေသဟံ၊ ဝေယန်အုံ့ဆီ**က** ၊ လေပြန်လှုံ့ဆော်ခဲ့ပြီ။
ထွက်တော်မူ နန်း**က** ခွာတယ်။

**မှ** ကို **အရေး**တွင်သာသုံးသည်။

ကျွန်တော် မန္တလေး**မှ** ရန်ကုန်သို့ ချောမောစွာ ရောက်ရှိပါသည်။
ခြောက်ဘုံရပ်**မှ** ၊ သက်လှာကျသို့ . . .

**ပြုသူ၊ ဖြစ်သူ၊ ရှိသူ** ကို ရည်ညွှန်းလိုသော် **နှုတ်ပြော** နှင့် **အရေး** နှစ်ရပ်စလုံးတွင် **က** ကိုသာ သုံးရသည်။

တောင်တောရယ်သာ၊ မာလာ **က** ငုံဖူး။
တောမျောက် **က** ကြိုးခွေ။
ရွှေဖိုးခေါင်သံချိုညောင်း၊ ဒေါင်း**က** အိုးဝေ။
မြန်မာစာအဖွဲ့**က** ထုတ်ဝေသည်။
သဘာပတိကြီး **က** မိန့်ခွန်းပြောကြားပါလိမ့်မယ်။
ကျောင်းအုပ်ကြီး **က** ဆုချီးမြှင့်သည်။
မြစ်ကြီးနားမြို့**က** ကချင်ပြည်နယ်မှာ ရှိတယ်။
မောင်ဘ **က** သတ္တိရှိတယ်။ မောင်လှ **က** သတ္တိမရှိဘူး။

## တွင်နေသောအမှားများ

၁။ ဦးဇော်ဝိတ်**မှ** ဆုချီးမြှင့်စဉ်

၂။ ရေယာဉ်ပေါ် အတက်အဆင်းတံခါးကို ခရီးသည်များ**မှ** မဖွင့်ရပါဘူး။

၃။ . . . ကျွန်းကို ဘိုးတော်ဘုရား**မှ** ၁၇၅၂ ခုနှစ်က တော်ဝင်ပင်အဖြစ်သတ်မှတ်၍ . . .

၄။ . . . သက်ဆိုင်ရာ**မှ** အမြန်ဆုံး အရေးယူပေးပါရန် တင်ပြအပ်ပါသည်။

၅။ ရန်ကုန်မြို့တော်တွင်မော်တော်ယာဉ်များ**မှ** လမ်းကူးသူ၄ဝခန့်အားတိုက်မိ၍ လစဉ် အသက်အန္တရာယ် ထိခိုက်လျက်ရှိသည်။

၆။ အခမ်းအနားတွင် ဥက္ကဋ္ဌ**မှ** အဖွင့် အမှာစကား ပြောကြားပြီး . . .

# အသုံးမများ **ကို** နှင့် **အား**

**အပြုခံရသူ** ကို ဖော်ပြလိုလျှင် **ကို** ကို သုံးသည်။

၁။ မဟာဗောဓိပင် **ကို** စိုက်တော်မူမည်။

၂။ မင်းထင်စည်သူ **ကို** ဝန်ကြီးခန့်တော်မူသည်။

၃။ ခွေး **ကို** ရိုက်သည်။

၄။ လှေ **ကို** လှော်သည်။

**လက်ခံသူ** ကို ဖော်ပြလိုလျှင် **အား** ကို သုံးသည်။

၁။ ရတနာသုံးပါး **အား** အကုန်ငါလှူ၏။

၂။ မင်းကြီးလည်း ရဟန္တာမြတ်တို့ **အား** ထိုအကြောင်း**ကို** နားတော်လျှောက်လေ၏။

၃။ စူဠနီဗြဟ္မဒတ်မင်းသည် သမီးတော် **ကို** အရှင်မင်းကြီး **အား** ပေးထိမ်းမြားအံ့ ...

၄။ ဘုရားလောင်းသည် ထမင်းဆုပ် **ကို** ခွေးငယ် **အား** ပေးလိုသော အခြင်းအရာ **ကို** ပြ၏။

၅။ တိုင်ကပ်နာရီ **ကို** ကျောင်းအုပ်ဆရာမကြီး **အား** ပေးအပ်လှူဒါန်းပြီးနောက် ...

"**ကို**" သုံးရမည့်နေရာတွင် "**အား**"ကို လွဲမှားသုံးတတ်ကြသည်။

၁။ (က) ငွေစာရင်းရှင်းတမ်းများ **အား** ဖတ်ကြားအတည်ပြုကာ အမှုဆောင်များ ရွေးချယ်ပြီး ... (မသင့်)

(ခ) ငွေစာရင်းရှင်းတမ်းများ **ကို** ဖတ်ကြားအတည်ပြုကာ အမှုဆောင်များ ရွေးချယ်ပြီး ... (သင့်)

၂။ (က) လျှင်ကြောကြီး တစ်ခု **အား** လေ့လာစူးစမ်းမှုများ ပြုလုပ်လျက် ရှိကြောင်း ... (မသင့်)

(ခ) လျှင်ကြောကြီး တစ်ခု **ကို** လေ့လာ စူးစမ်းမှုများ ပြုလုပ်လျက် ရှိကြောင်း ... (သင့်)

၃။ (က) မြန်မာ့ရိုးရာအတွေးအခေါ်ကို မဖော်ထုတ်မီ ဤအတွေး
အခေါ်**အား** ဖော်ထုတ်ရန်အတွက် ... (မသင့်)

(ခ) မြန်မာ့ရိုးရာအတွေးအခေါ်ကို မဖော်ထုတ်မီ ဤအတွေး
အခေါ်**ကို** ဖော်ထုတ်ရန်အတွက် ... (သင့်)

သဒ္ဒါသဘောအရ "ကို" သုံးရမည် ဖြစ်သော်လည်း **နှစ်သက်မြတ်နိုးခြင်း၊ အလေးအမြတ်ပြုခြင်း** သဘောတို့ကိုဖော်ပြလိုသောအခါ "**ကို**" အစား "**အား**" ကို သုံးကြသည်လည်းရှိသည်။

၁။ အရှင်မြတ် **အား** မပြတ်ဖူးမြင်လိုပါသည်။

၂။ ရသေ့ **အား** ရှိခိုးစိမ့်သောငှာ ...

ရသေ့ အား ရှိခိုးစိမ့်သောငှာ ....

၃။ နိုင်ငံတော်အလံ **အား** လှိုက်လှဲစွာ ကြိုဆိုပါ၏။

# သတိပြုလေ **တို့**၊ **များ**၊ **တွေ**

တစ်မျိုးတည်း သို့မဟုတ် နှီးနွှယ်ပတ်သက်နေသော အမျိုးအစားတို့ကို အကြွင်းအကျန်မရှိ တပေါင်းတစည်းတည်း ဖော်ပြလိုသောအခါ **တို့** ကိုသုံးသည်။

၁။ စန္ဒာ၊ ဇာနည်၊ ရွှေစင်ဝင်း**တို့** အောင်ကြတယ်။

၂။ မိုးဇော်နဲ့ သူ့အစ်ကို**တို့** ပြန်လာမယ်ပြောတယ်။

၃။ ရွှေတိဂုံဘုရား၊ မဟာမြတ်မုနိဘုရား**တို့**ကို ဖူးမြော်ချင်ပါတယ်။

၄။ ငါ**တို့**သည် မြန်မာနိုင်ငံနှင့် တိုင်းရင်းသားလူမျိုးများအပေါ် သစ္စာရှိပါမည်။

၅။ ခြေလေးချောင်းသတ္တဝါ**တို့**တွင် ဆင်သည် အကြီးဆုံးဖြစ်သည်။

၆။ ငှက်**တို့**၏ ဘုရင်ကား ဂဠုန်တည်း။

တစ်ခုမက များပြားသော အရေအတွက်ရှိသည့် အမျိုးအစားကို ဖော်ပြလိုသောအခါ **များ**ကို သုံးသည်။ ပြောဟန်တွင် **တွေ**ကို သုံးသည်။

၁။ မိဘပြည်သူ**များ**ကလည်း တစ်တပ်တစ်အား ပါဝင်ကြဖို့ တိုက်တွန်းလိုက်ရပါသည်။

၂။ ကျောင်းသားကျောင်းသူ**များ**၊ ဆရာဆရာမ**များ**နှင့် ကျောင်းသားမိဘ**များ** တက်ရောက်ကြပါသည်။

၃။ ငါးကြင်း**တွေ**ဆန်၊ ငါးတန်**တွေ** သောင်ခြေဦးမှာ ________

၄။ အိပ်မက်ထဲမှာ (၂၀၀)တန်**တွေ** အထပ်လိုက်သုံး၊ တိုက်ကြီးတွေဆောက်၊ ကားကြီး**တွေ**စီး ________

၅။ နောက်နှစ်ရက်အဖို့ မြန်မာနိုင်ငံမြောက်ပိုင်းဒေသ**တွေ**မှာ မိုးဆက်လက်ရွာပါမယ်ရှင်။

**များ၊တွေ** ကို

(၁) ၂၅ **များ**၊ ၁၅၀ **များ**၊ ၁၀၀ **တွေ** စသည်ဖြင့် ကိန်းဂဏန်း များနှင့် တွဲမသုံးနိုင်ပါ။

(၂) ငါ၊ သင်၊ မင်း စသည့် နာမ်စားများနှင့် တွဲမသုံးနိုင်ပါ။ ရန်ကုန်၊ မန္တလေး၊ မကွေး၊ မောင်မောင်၊ မလှ စသော တစ်ဦးတစ်ယောက်တည်း နှင့်သာ သက်ဆိုင်သော နာမ်များနှင့်လည်း တွဲမသုံးနိုင်ပါ။ တွဲသုံးလျှင် အနက်အဓိပ္ပာယ် လွဲနိုင်သည်။

( ငါ**များ** ထီပေါက်ရင် ဘယ်လောက်ကောင်းမလဲ။ ဂူဂူး**များ** သိရင် သိပ်ဝမ်းသာမှာပဲ။ ဂျိုကီးကိုပြော**များ** ပြောမိသွားသလား စသည့် အသုံးများ ရှိသည်။ သို့ရာတွင် ဗဟုဝုစ်ကိန်းကို ဖော်ပြနေခြင်း မဟုတ်ဘဲ လေးနက်ခြင်းကို ပြခြင်းဖြစ်သည်။)

၁။ ရန်ကုန်တိုင်း၊ ဧရာဝတီတိုင်း၊ ပဲခူးတိုင်း **တွေ/များ** မှာ နေရာကွက်၍ မိုးရွာနိုင်ပါသည်။ ✕

( ပဲခူးတိုင်းသည် တစ်တိုင်းမက များပြားစွာရှိနေသည် ဟူသော အဓိပ္ပာယ် သက်ရောက်သည်။)

**(မသင့်)**

၂။ ရန်ကုန်တိုင်း၊ ဧရာဝတီတိုင်း၊ ပဲခူးတိုင်း**တို့**မှာ နေရာကွက်၍ မိုးရွာနိုင်ပါသည်။ ✔

( ရန်ကုန်တိုင်း၊ ဧရာဝတီတိုင်း၊ ပဲခူးတိုင်း ဟူသော တိုင်း ၃–တိုင်း စလုံးတွင် မိုးရွာနိုင်သည်ဟူသော အနက်အဓိပ္ပာယ်ရသည်။ )

**( သင့် )**

## အတိတ်ကို ရည်ညွှန်းလိုတိုင်း **ခဲ့** သုံးရန်မလို

**ခဲ့** သည် အမှန်တကယ်ပြုကြောင်း၊ ဖြစ်ကြောင်း၊ ရှိကြောင်း လေးနက်စေလျက် ကြိယာကို ကူညီထောက်ပံ့သော စကားလုံးဖြစ်သည်။ အတိတ်ကိုလည်းကောင်း၊ အနာဂတ်ကိုလည်းကောင်း မညွှန်းပြပါ။ ထို့ကြောင့် **ခဲ့**သည် အတိတ်ကာလပြပစ္စည်းလည်းမဟုတ်၊အနာဂတ်ကာလပြပစ္စည်းလည်းမဟုတ်ပါ။

- ရှိခိုးကော်ရော်၊ ပူဇော်အကျွန်၊ ပန်**ခဲ့**တုံ၏။
- မှောင်**ခဲ့**တစ်ခါ၊ ပြာ**ခဲ့**တချို့၊ ညို့**ခဲ့**တစ်လီ။
- မြင်**ခဲ့**၊ ကြား**ခဲ့**၊ စား**ခဲ့**၊ သောက်**ခဲ့** ရသည်ကို ငါ့အား လျှောက်လော့။

ဖော်ပြပါဝါကျတို့တွင် **ခဲ့** သည်အတိတ်ကာလကိုညွှန်းသော အတိတ်ကာလပြ ပစ္စည်းဖြစ်သည်ဟု ထင်မှားဖွယ်ဖြစ်သည်။ အကယ်စင်စစ် အတိတ်ကာလကို မညွှန်းပြပါ။

- ရှိခိုးကော်ရော်၊ ပူဇော်အကျွန်၊ ပန်**လတ်**တုံ၏။
- မှောင်**ချည်**တစ်ခါ၊ ပြာ**ချည်**တချို့၊ ညို့**ချည်**တစ်လီ။
- မြင်**ရ**၊ ကြား**ရ**၊ စား**ရ**၊ သောက်**ရ**သည်ကို ငါ့အားလျှောက်လော့-ဟု

ပြုပြင်ရေးသားကြည့်ပါက အနက်အဓိပ္ပာယ် ထူးခြားကွဲပြားသွားခြင်းမရှိသည်ကို တွေ့ရမည်။ အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်ကာလ ကွာခြားကွဲပြားသွားခြင်းမျိုး မရှိသည်ကိုလည်း တွေ့ရမည်။ အဘယ်ကြောင့်ဆိုသော် **ခဲ့** သည် အတိတ်ကာလပြ ပစ္စည်း မဟုတ်သောကြောင့် ဖြစ်သည်။

**ခဲ့** သည် အတိတ်ကာလကို မညွှန်းသော်လည်း အမှန်တကယ်ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းအနက်မှ ဆင့်ပွားကာ ဦးစွာပြုလုပ်ခြင်း၊ အလျင်ပြုလုပ်ခြင်း အနက်ကိုကား ညွှန်းပြတတ်သည်။

သာဓက။ ။

- ညောင်ရမ်းမြို့ကို ...ဘယကျော်ထင်ကို ပေးတော်မူ**ခဲ့**၍ ပြန်တော်မူသည်။
- အရှင်အလိုရှိရာကို ဆိုလော့။ ကျွန်ုပ် လှူ**ခဲ့**အံ့ဟု လျှောက်၏။
- ခြေတော်စုံကို၊ လက်စုံမြတ်နိုး၊ ရှိညွှတ်ကျိုး၊ ရှိခိုးပူဇော်**ခဲ့**ပါသည်။

ထို့ပြင် တိုက်တွန်းနှိုးဆော်ခြင်း၊ ဝန်ခံကတိပြုခြင်းတို့ကို ဖော်ပြသည့် ဝါကျအချို့တွင် အလေးအနက်ပြုသည့် သဘောဖြင့် **ခဲ့** ကို ထည့်သုံးလေ့ရှိသည်။

- ချစ်၍ခေါ်သည်၊ လိုက်တော်မူ**ခဲ့**။
- တပ်တပ်ရာရာ၊ သိသာအောင်ကြည့်**ခဲ့**။
- ပဏ္ဏာကာရပေးသည်၊ မြောင်းတူး**ခဲ့**ပါဟု စေ၏။
- သို့မှတစ်ခါ၊ မကြာနောက်ငဲ့၊ ပြန်ပါ**ခဲ့**ဟု၊ ချဲ့ချဲ့ပူဆာ၊ မိန့်လိုက်မှာသည်။
- နိုင်ငံတော်အစိုးရနှင့် ပြည်သူများက လက်ကမ်း၍ ပန်းနှင့်ကြိုဆိုနေသော လမ်းအတိုင်း လျှောက်လှမ်းလာ**ခဲ့**ကြပါရန် တိုက်တွန်းရပါသည်။
- ဘကြီးလဲ ကလေးမတို့အိမ်ကို တစ်ကြိမ်လောက် လာ**ခဲ့**ရအုံးမယ်။

ထို့ပြင် **ခဲ့** ကို စိတ်ကူးကြံဆခြင်း၊ စည်းကမ်းသတ်မှတ်ခြင်း အနက်ကို ဆောင်သော **လျှင်**၊ **သော်**၊ **မူ**၊ **ငြားအံ့** စသည်တို့နှင့် တွဲ၍လည်း ကြိယာကို ထောက်ပံ့ကူညီရာတွင် သုံးသည်။

သာဓက။ ။

- မိုးမပြိုဘူး၊ ပြို**ခဲ့**သော် ...
- အကယ်၍ ထီပေါက်**ခဲ့**လျှင် ...
- အဆွေခင်ပွန်းမရှိ**ခဲ့**မူ ...
- ထိုသို့ဖြစ်**ခဲ့**ငြားအံ့ ...

အချုပ်အားဖြင့်ဆိုရသော် **ခဲ့** သည် အမှန်တကယ်ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်း အနက်ဖြင့် ကြိယာကို ထောက်ပံ့ကြောင်း၊ ထိုမှဆင့်ပွားကာ ဦးစွာပြုခြင်း၊ အလျင်ပြုခြင်းအနက်၊ တိုက်တွန်းနှိုးဆော်ခြင်း၊ ဝန်ခံကတိပြုခြင်းအနက်၊ အမှန်ပြုဘိ၊ ဖြစ်ဘိ၊ ရှိဘိသကဲ့သို့ အနက်တို့ဖြင့်လည်း ကြိယာကို ထောက်ပံ့ကြောင်း မှတ်ယူရန် ရှိသည်။

ထို့ကြောင့် အတိတ်ကာလကို ညွှန်းပြလိုတိုင်း **ခဲ့**ကို သုံးခြင်းမျိုးကို ရှောင်ရှား ရမည် ဖြစ်ပေသည်။

သာဓက။ ။

- အဖေ အင်္ဂလန်ကို မနေ့က သွား**ခဲ့**တယ်။

- ယမန်နေ့က ကျင်းပ**ခဲ့**သော အစည်းအဝေးတွင် ...
- မနက်စောစော လက်ဖက်ရည် သောက်**ခဲ့**တယ်။ အတော်ကြာမှ ဆေးသောက်**ခဲ့**တယ်။
- တေဇောပထဝီ ၂–ပါးကြောင့်ဖြစ်သော အချဉ်အရသာ၏ အကျိုးသွားကို ဖြေဆို**ခဲ့**ပါ။

# နှင့် ပို ဖြင့် ပို

**စွာ** ပါသော ကြိယာဝိသေသနပုဒ်များကို သုံးသော် **နှင့်၊ ဖြင့်** တို့ကို သုံးရန် မလိုပါ။

**လေးစားစွာ ဖြင့်** အစီရင်ခံပါသည်။

**လေးစားစွာ နှင့်** စာရေးလိုက်ပါသည်။

**လေးမြတ်စွာ ဖြင့်** ဖိတ်ကြားပါသည်။

တပ်စခန်း တစ်နေရာတွင် တိုင်းပြည်တာဝန်ကို

**ကျန်းမာစွာ ဖြင့်** ထမ်းဆောင်လျက်ရှိသည်။

ထို့ပြင် အစီရင်ခံစာများ၊ အကြောင်းကြားစာများ၊ သတင်းပေး ကြေညာချက်များ စသည်တို့တွင် **နှင့်၊ ဖြင့်** တို့ကို တွင်တွင်သုံးလျက်ရှိသည်။

**၁။ ပြည်သူများအတွက် ပို့ဆောင်ရေးဘတ်စ်ကားဆွဲသူများကို ပုံမှန်ခရီးပြေးဆွဲနိုင်အောင် ဓာတ်ဆီရောင်းချခဲ့ကြောင်း**နှင့် **ဖော်ပြပါတယ်။**

**၂။ ဒီကိစ္စတွေကို ငြိမ်းချမ်းစွာ စည်းကမ်းတကျ ဆောင်ရွက်ပေးရေးပင် ဖြစ်ကြောင်း**နှင့် **ပြောကြားခဲ့ပါတယ်။**

**၃။ သင်္ဘောသား (၃၀) စလုံးမှာ ထိခိုက် ဒဏ်ရာရရှိခြင်း မရှိကြောင်း**ဖြင့် **သင်္ဘောအဖွဲ့ ညွှန်ကြားရေးမှူးက ပြောသည်။**

**၄။ ယင်း အစီအစဉ်၏ တတိယအဆင့်ကို စနေနေ့က စတင်ခဲ့ခြင်း ဖြစ်ကြောင်း**ဖြင့် **ရေဒီယိုက အသံလွှင့်သည်။**

**၅။ အေအိုင်ဒီအက်စ်ရောဂါသည်... အသက်ဆုံးရှုံး စေနိုင်သော အဓိက အကြောင်းရင်းတစ်ရပ် ဖြစ်လာနိုင်ကြောင်း**ဖြင့် **အဆိုပါလေ့လာချက် စာတမ်း၌ ဖော်ပြသည်။**

**၆။ သို့သော် အထိအခိုက် အပျက်အစီး သတင်းများ မကြားရသေးကြောင်း** နှင့် **ရဲများက ပြောသည်။**

**ကြောင်း** နောက်တွင် **ဖြင့်** သို့မဟုတ် **နှင့်** ကို သုံးခြင်းသည် အပိုသုံးဖြစ်သည်။

# တစ်မျိုးသာသုံးပါ

**အနက်** နှင့် **တွင်** စကားနှစ်လုံးသည် အစုအပေါင်းမှ တစ်စိတ်တစ်ပိုင်းကို ခွဲထုတ်ပြသော စကားလုံးများဖြစ်သည်။

ထို့ကြောင့် အစုအပေါင်း အများထဲတွင် ပါဝင်နေသော တစ်စိတ်တစ်ပိုင်းကို ခွဲထုတ်ပြလိုလျှင် **အနက်** သို့မဟုတ် **တွင်** ကို သုံးနိုင်သည်။ **နှစ်မျိုး**စလုံး မသုံးသင့်ပါ။

၁။ ကုဋေတစ်သိန်းသော ကြာပင်အပေါင်းတို့ **အနက်/တွင်** . . .

၂။ ဝက်မစွတ်မြို့စားရေးသော . . . ကဗျာလင်္ကာတို့ **အနက်/တွင်**. . . ကျမ်းမော်ကွန်းကို

၃။ ကိုဖိုးသိုက်ကား မြင်ဖူးသမျှသော ယောက်ျားများ **အနက်/တွင်** အချောဆုံး

**ဖြစ်စေ–ဖြစ်စေ၊ သို့မဟုတ်၊ သော်လည်းကောင်း–သော်လည်းကောင်း** တို့သည် **တစ်ခု** သို့မဟုတ် **တစ်ခု ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်း** ကို ဖော်ပြသည်။

ထို့ကြောင့် တစ်ခု သို့မဟုတ် တစ်ခု ဖြစ်ကြောင်းပြလိုလျှင် တစ်မျိုးမျိုးကို သုံးနိုင်သည်။ နှစ်မျိုးရောမသုံးသင့်ပေ။

၁။ (က) ... **အာဖရိကကျွန်းပြင် ပင်လယ်ကြီးက**ဖြစ်စေ၊ သို့မဟုတ် **တူးမြောင်းစွပ်မြို့ထွက် ပင်လယ်နီက**ဖြစ်စေ **လာရောက်သမျှ သင်္ဘောတို့သည် အေဒင်မြို့သို့ ရောက်ရသည်။**

( အသုံးပို )

(ခ) ... **အာဖရိကကျွန်းပြင် ပင်လယ်ကြီးက**ဖြစ်စေ၊ **တူးမြောင်းစွပ် မြို့ထွက် ပင်လယ်နီက**ဖြစ်စေ **လာရောက်သမျှ သင်္ဘောတို့သည် အေဒင်မြို့သို့ ရောက်ရသည်။**

( အသုံးမှန် )

(ဂ) ... **အာဖရိကကျွန်းပြင် ပင်လယ်ကြီး** သို့မဟုတ် **တူးမြောင်းစွပ် မြို့ထွက် ပင်လယ်နီက လာရောက်သမျှ သင်္ဘောတို့သည် အေဒင်မြို့ သို့ ရောက်ရသည်။**

( အသုံးမှန် )

၂။ (က) **အခြားသစ်သားဖြင့်**သော်လည်းကောင်း၊ သို့မဟုတ် **သံဖြင့်**သော်လည်းကောင်း **ပိုးပြီ လျှင် မူလီဖြင့်စုပ်၍...**

( အသုံးပို )

(ခ) **အခြားသစ်သားဖြင့်**သော်လည်းကောင်း၊ **သံဖြင့်**သော်လည်းကောင်း **ပိုးပြီးလျှင် မူလီဖြင့် စုပ်၍...**

( အသုံးမှန် )

(ဂ) **အခြားသစ်သားဖြင့်** သို့မဟုတ် **သံဖြင့် ပိုးပြီးလျှင် မူလီဖြင့် စုပ် ၍...**

( အသုံးမှန် )

၃။(က) **လူအများပေါ်တွင် အုပ်ချုပ်နေရသည့် အရာရှိကြီးတစ်ဦး** ဖြစ်စေ၊ သို့မဟုတ် **အလုပ်တိုက်ပိုင်ရှင်တစ်ဦး** ဖြစ်စေ **သည်းခံလိုစိတ် မရှိဘဲ မကြာခဏ ဒေါသထွက်တတ်ပါမူ လက်အောက်လူများ၏ မလိုမုန်းထားခြင်းကို ခံရမည်။**

( အသုံးပို )

(ခ) **လူအများပေါ်တွင် အုပ်ချုပ်နေရသည့် အရာရှိကြီးတစ်ဦး** ဖြစ်စေ၊ **အလုပ်တိုက်ပိုင်ရှင် တစ်ဦး**ဖြစ်စေ **သည်းခံလိုစိတ် မရှိဘဲ မကြာခဏ ဒေါသထွက်တတ်ပါမူ လက်အောက်လူများ၏ မလို မုန်းထားခြင်းကို ခံရမည်။**

( အသုံးမှန် )

(ဂ) **လူအများပေါ်တွင် အုပ်ချုပ်နေရသည့် အရာရှိကြီးတစ်ဦး** သို့မဟုတ် **အလုပ်တိုက်ပိုင်ရှင် တစ်ဦးသည် သည်းခံလိုစိတ် မရှိဘဲ မကြာခဏ ဒေါသထွက်တတ်ပါမူ လက်အောက်လူများ၏ မလိုမုန်းထား ခြင်းကို ခံရမည်။**

( အသုံးမှန် )

# ခွဲခြားသိစရာ **သည်** နှင့် **မှာ**

**သည်** နှင့် **မှာ** သည် **ပြုသူ၊ ဖြစ်သူ၊ ရှိသူ** (ကတ္တား) ဖြစ်ကြောင်းကို ဖော်ပြသည်။

ဝါကျတစ်ခုတွင် **သည်** နှင့် **မှာ** ကို တစ်ပြိုင်နက်တည်း သုံးသောအခါ ရှေ့ကတ္တားနောက်တွင် **သည်** ကို သုံးသည်။ နောက်ကတ္တားနောက်တွင် **သည်** သို့မဟုတ် **မှာ** ကို သုံးသည်။

မယ်ခကိုင်ထားသော သံတစ်ပိဿာထုပ်**သည်**
သေး၍ မောင်လုထမ်းထားသော
လဲတစ်ပိဿာထုပ်**မှာ** ကြီးသည်။

**(သင့်)**

**သည်** က သာမန်ဖော်ပြ၍ **မှာ** က ရှေ့ကတ္တားနှင့် နောက်ကတ္တား ကို ခွဲခြားဖော်ပြသည်။ ထို့ကြောင့် **သည်** ကို ရှေးဦးစွာသုံး၍ **မှာ** ကို နောက်မှ သုံးရသည်။ **မှာ** ကို ရှေးဦးစွာ သုံးလျှင် အသုံးလွဲသည်။

မယ်ခကိုင်ထားသော သံတစ်ပိဿာထုပ်**မှာ** သေး၍
မောင်လှထမ်းထားသော လဲတစ်ပိဿာထုပ်**သည်** ကြီးသည်။
**( မသင့် )**

# **နည်းတူ၊ ကဲ့သို့** ခွဲသိဖို့

မ – **မပါသော ကြိယာနှင့် သုံးလျှင်** တူညီသည့်အဓိပ္ပာယ် **ရသည်။**
**မောင်မောင်** နည်းတူ **ကျွန်တော်** ပြေးနိုင်**သည်။**
**မောင်မောင်** ကဲ့သို့ **ကျွန်တော်** ပြေးနိုင်**သည်။**
**(မောင်မောင်ရော ကျွန်တော်ပါ ပြေးနိုင်သည်။ နှစ်ဦးစလုံး၏**
အပြေးစွမ်းရည်တူညီမှု **ကို ပြသည်။)**

မ – **ပါသော ကြိယာနှင့် သုံးလျှင် အဓိပ္ပာယ်ကွဲသည်။ အဓိပ္ပာယ် သက်ရောက်မှုရှုပ်သည်။**

**၁။ မောင်မောင်**နည်းတူ **ကျွန်တော် မပြေးနိုင်ပါ။**

(က) မောင်မောင်မပြေးနိုင်သလို ကျွန်တော်ပါ မပြေးနိုင်။

(ခ) မောင်မောင် ပြေးနိုင်သလောက် မြန်အောင် ကျွန်တော် မပြေးနိုင်ပါ။ သို့သော် ပြေးတော့ ပြေးနိုင်သည်။

**၂။ မောင်မောင်**ကဲ့သို့ **ကျွန်တော်မပြေးနိုင်ပါ။**

(က) မောင်မောင်သာ ပြေးနိုင်သည်။ ကျွန်တော် မပြေးနိုင်ပါ။

(ခ) မောင်မောင်ပြေးနိုင်သလောက် မြန်အောင် ကျွန်တော် မပြေးနိုင်ပါ။ သို့သော် ပြေးတော့ ပြေးနိုင်သည်။

ထို့ကြောင့် **နည်းတူ** နှင့် **ကဲ့သို့** ကို **မ** ပါသော ကြိယာနှင့် သုံးလျှင် ရှေ့ကတ္တားတွင် သက်ဆိုင်ရာကြိယာကို အောက်ပါအတိုင်း ဖြည့်သုံးမှ အဓိပ္ပာယ် တည့်သည်။ ရှင်းသည်။

**၁။ မောင်မောင်မပြေးနိုင်သည့် နည်းတူ ကျွန်တော်မပြေးနိုင်ပါ။**

**၂။ မောင်မောင်ပြေးနိုင်သည့် နည်းတူ ကျွန်တော်မပြေးနိုင်ပါ။**

**၃။ မောင်မောင်မပြေးနိုင်သကဲ့သို့ ကျွန်တော်မပြေးနိုင်ပါ။**

**၄။ မောင်မောင်ပြေးနိုင်သကဲ့သို့ ကျွန်တော်မပြေးနိုင်ပါ။**

# ဆယ်ပြည့်ကိန်းများကို ရေတွက်သော်

ကိန်းများကို ရေတွက်သောအခါ တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး ... တစ်ဆယ်၊ နှစ်ဆယ် စသည်ဖြင့် ရေတွက်သည်။ လူ၊ ပုဂ္ဂိုလ်၊ အရာဝတ္ထု စသည်တို့ကို ရေတွက်သောအခါ ထို လူ၊ ပုဂ္ဂိုလ်၊ အရာဝတ္ထုကိုလိုက်၍—

| | |
|---|---|
| လူတစ်**ယောက်** | မြေဆယ်**ကွက်** |
| ကားနှစ်**စီး** | ဘုန်းကြီးသုံး**ပါး** |
| တိုက်ငါး**လုံး** | ငွေဆယ့်ငါး**ကျပ်** |

စသည်ဖြင့် **ယောက်**၊ **စီး**၊ **လုံး**၊ **ကွက်**၊ **ပါး**၊ **ကျပ်** ဟူသော **မျိုးပြစကားလုံး**များကို သုံးသည်။

ဤသို့သုံးရာ၌ မျိုးပြစကားလုံးများကို ကိန်းတို့၏ နောက်ကထားသည်။ ဤအစဉ်ကို တစ်၊ နှစ်၊ သုံး၊ လေး၊ ငါး၊ ခြောက်၊ ခုနစ်၊ ရှစ်၊ ကိုး၊ တစ်ဆယ်နှင့် ဆယ်ပြည့်ကိန်းမဟုတ်သောကိန်းတို့ကို ရေတွက်ရာ၌ သုံးသည်။

ဆယ်ပြည့်ကိန်းဆိုသည်မှာ ၂၀ နှင့်အထက် သုညဆုံးသည့် ၃၀၊ ၄၀၊ ၅၀၊ ၁၀၀၊ ၁၀၀၀ စသော ကိန်းများ ဖြစ်သည်။ ထိုဆယ်ပြည့်ကိန်းများကို ရေတွက် သောအခါ မျိုးပြစကားလုံးကို ဆယ်ပြည့်ကိန်းရှေ့က ထားသည်။

မျိုးပြစကားလုံး အမျိုးအစားကိုလိုက်၍ မျိုးပြစကားလုံးတွင် **အ** ထည့်သည်လည်း ရှိသည်။ **အ** မထည့်သည်လည်း ရှိသည်။

| **လူ၊ ပုဂ္ဂိုလ်၊ အရာဝတ္ထု** | **မျိုးပြစကားလုံး** | **ဆယ်ပြည့်ကိန်း** |
|---|---|---|
| လူ | အယောက် | နှစ်ဆယ်၊သုံးဆယ် |
| ကား | အစီး | ငါးဆယ် |
| ဘုန်းကြီး | အပါး | တစ်ရာ |

| | | |
|---|---|---|
| ငွေ | ကျပ် | တစ်ထောင် |
| နွား | အကောင် | လေးဆယ် |

အချို့လူ၊ ပုဂ္ဂိုလ်၊ အရာဝတ္ထုများ၏ ဆယ်ပြည့်ကိန်းကို ရေတွက်သောအခါ မျိုးပြစကားလုံးကို ချန်သုံးသည်လည်းရှိသည်။

| **လူ၊ပုဂ္ဂိုလ်၊အရာဝတ္ထု** | **ဆယ်ပြည့်ကိန်း** |
|---|---|
| လူ | နှစ်ဆယ်၊ သုံးဆယ် |
| ငွေ | တစ်ထောင် |
| ခြံ | တစ်ရာ |
| ကန် | တစ်ရာ |
| ကျပ် | တစ်ထောင် |
| လမ်း | နှစ်ဆယ် |
| လမ်း | သုံးဆယ် |

မှတ်ချက်။ ။ **ဦး** ဟူသော စကားလုံးသည် မျိုးပြစကားလုံး ဖြစ်သော်လည်း **အဦး** ဟု သုံးရိုးမရှိ။

သာဓက။ ။

လူနှစ်ဦး

လူဆယ်ဦး

လူနှစ်ဆယ်

လူသုံးဆယ် ဟု အသုံးရှိသည်။

**လူအဦးသုံးဆယ်** ဟူသော အသုံးမရှိ။

# ဝါကျအထားအသို

ဝါကျကို စကားလုံးများဖြင့် ဖွဲ့စည်းထားသည်။ ထိုသို့ဖွဲ့စည်းသောအခါ ရှေ့နောက် အစီအစဉ် အထား အသိုမှန်ကန်ဖို့ လိုသည်။ အထားအသိုမမှန်ကန်ပါက ဆိုလိုရင်း မရောက်ဘဲ အဓိပ္ပာယ် လွဲချော်နိုင်သည်။ ထို့ကြောင့် တွဲစပ်သင့်သော သက်ဆိုင်ရာ စကားလုံး အချင်းချင်း၊ ပုဒ်အချင်းချင်း နီးနီးကပ်ကပ် ထားရမည်။

နာမ်ကို အထူးပြုသောပုဒ်ကို ၎င်းနှင့်သက်ဆိုင်သည့် နာမ်၏ရှေ့တွင် ထားရသည်။

၁။ (က) ပေ(၂၀)ရှည်သော ကလေးများ ရေကူးရန် ကန်တစ်ကန်ကို အမြန်တူးနေသည်။
[ကလေးများသည် ပေ (၂၀) ရှည်သည်။]

(ခ) ကလေးများရေကူးရန် ပေ(၂၀)ရှည်သော ကန်တစ်ကန် ကို အမြန်တူးနေသည်။
[ကန်သည် ပေ (၂၀) ရှည်သည်။]

၂။ (က) အမျိုးသမီး တိရစ္ဆာန်ဥယျာဉ် တစ်ပတ်ပြေးပွဲကို ယနေ့နံနက် (၇)နာရီတွင် ကျင်းပသည်။
[အမျိုးသမီးတိရစ္ဆာန်များအတွက် ကျင်းပသော ဥယျာဉ် တစ်ပတ်ပြေးပွဲ။]

(ခ) တိရစ္ဆာန်ဥယျာဉ်တစ်ပတ် အမျိုးသမီးပြေးပွဲကို ယနေ့နံနက် (၇)နာရီတွင် ကျင်းပသည်။
[အမျိုးသမီးများအတွက် ကျင်းပသော တိရစ္ဆာန်ဥယျာဉ် တစ်ပတ်ပြေးပွဲ။]

၃။ (က) ပေ(၃၀၀၀)မြင့်သော ပန်းသီးပင်များ စိုက်ပျိုးရန်တောင်တန်း တစ်ခုကို သက်ဆိုင်ရာက ရှာဖွေနေသည်။
[ပန်းသီးပင်များသည် ပေ (၃၀၀၀) မြင့်သည်။]

(ခ) ပန်းသီးပင်များ စိုက်ပျိုးရန် ပေ ( ၃၀၀၀ ) မြင့်သော တောင်တန်းတစ်ခုကို သက်ဆိုင်ရာက ရှာဖွေနေသည်။
[တောင်တန်းသည် ပေ (၃၀၀၀) မြင့်သည်။]

၄။ (က) ကမ္ဘာတွင် ပထမဦးဆုံးသော အမြွှာညီအစ်ကိုနှစ်ဦး၏ လက်ထပ်ပွဲပင် ဖြစ်သည်။
[ပထမဦးဆုံးသော အမြွှာညီအစ်ကိုဖြစ်သည်။]

(ခ) ကမ္ဘာတွင် အမြွှာညီအစ်ကိုနှစ်ဦး၏ ပထမဦးဆုံးသော လက်ထပ်ပွဲပင် ဖြစ်သည်။
[ပထမဦးဆုံးသော လက်ထပ်ပွဲ ဖြစ်သည်။]

၅။ (က) အုံ့မခန်း တောင်တန်းပေါ်မှ မြန်မာ့ကျောက်စိမ်းများ
[တောင်တန်းက အုံ့မခန်းဖွယ်ဖြစ်သည်။]

(ခ) တောင်တန်းပေါ်မှ <u>အုံ့မခန်း</u> မြန်မာ့ကျောက်စိမ်းများ
[ မြန်မာ့ကျောက်စိမ်းများက အုံ့မခန်းဖွယ် ဖြစ်သည်။ ]

၆။ (က) မောင်ဘသည် ငါးကြော် တစ်ကောင်ကို ကြောင်အိမ်ထဲက <u>အစ်ကိုကြီး</u>အား ပေးသည်။
[အစ်ကိုကြီးက ကြောင်အိမ်ထဲမှာရှိသည်။ ]

(ခ) မောင်ဘသည် အစ်ကိုကြီးအား ကြောင်အိမ်ထဲက ငါးကြော် <u>တစ်ကောင်ကို</u> ပေးသည်။
[ ငါးကြော်က ကြောင်အိမ်ထဲမှာ ရှိသည်။ ]

၇။ (က) မန္တလေးမြို့ သမားတော်ကြီး ဦးအုန်းရွှေ ပြုစုသော **လက်တွေ့** <u>အနာပေါက်</u> ကုထုံးကျမ်း ထွက်ပြီ။
[လက်တွေ့ပေါက်နေသော အနာကို ကုသနိုင်သော ကုထုံးကျမ်း ထွက်ပြီ။]

(ခ) မန္တလေးမြို့သမားတော်ကြီး ဦးအုန်းရွှေ ပြုစုသော **အနာပေါက်** <u>လက်တွေ့</u>ကုထုံးကျမ်း ထွက်ပြီ။
[ အနာပေါက်ရောဂါများကို လက်တွေ့ကုသနိုင်သောကျမ်း ထွက်ပြီ။]

၈။ (က) အထက (၁)ရန်ကင်း၊ စတုတ္ထတန်း (ခ)မှ ဦးပိုးဇာ၏သား မောင်ပြည့်ဖြိုးပိုင်အား မောင်ပြည့်ဖြိုးပိုင်စိုးဟု ခေါ်ပါရန်၊ [ ဦးပိုးဇာသည် အထက (၁) ရန်ကင်း၊ စတုတ္ထတန်း (ခ) တွင် တက်ရောက်နေသူဖြစ်သည်။]

(ခ) ဦးပိုးဇာ၏သား အထက(၁)ရန်ကင်း၊ စတုတ္ထတန်း (ခ)မှ မောင်ပြည့်ဖြိုးပိုင်အား မောင်ပြည့်ဖြိုးပိုင်စိုးဟု ခေါ်ပါရန်၊ [ မောင်ပြည့်ဖြိုးပိုင်စိုးသည် အထက(၁)ရန်ကင်း၊ စတုတ္ထတန်း (ခ)တွင် တက်ရောက်နေသူဖြစ်သည်။ ]

ကြိယာကို အထူးပြုသောပုဒ်ကို ၎င်းနှင့် သက်ဆိုင်သည့် ကြိယာ၏ ရှေ့တွင် ထားရသည်။

၁။ (က) တရုတ်ပြည်သို့ လာရောက်လည်ပတ်သည့် သတင်းကို တရားဝင် သတင်းစာ၌ ဖော်ပြခြင်းမပြုဘဲ ထားခဲ့သည်။
[တရားမဝင်ထုတ်ဝေသော သတင်းစာလည်း ရှိသည်။]

(ခ) တရုတ်ပြည်သို့ လာရောက် လည်ပတ်သည့် သတင်းကို သတင်းစာ၌ တရားဝင် ဖော်ပြခြင်း မပြုဘဲ ထားခဲ့သည်။
[သတင်းကို တရားဝင် ထုတ်ပြန်ခြင်းမပြု။]

၂။ (က) ဥက္ကဋ္ဌကြီး အား မိန့်ခွန်းပြောကြားပေးပါရန် ပန်ကြားပါသည်။
[တစ်စုံတစ်ယောက်က ဥက္ကဋ္ဌကြီးအား မိန့်ခွန်းပြောကြား ပေးရန် ဖြစ်သည်။]

(ခ) မိန့်ခွန်းပြောကြားပေးပါရန် ဥက္ကဋ္ဌကြီးအား ပန်ကြားပါသည်။
[ မိန့်ခွန်းပြောရန် ဥက္ကဋ္ဌကြီးအား ပန်ကြားခြင်းဖြစ်သည်။ ]

၃။ (က) **စာသင်ခန်းတွင်** လိမ်မပြောရန် တပည့်များကို ဆရာက ဆုံးမသည်။
[စာသင်ခန်းပြင်ပတွင် လိမ်ပြောနိုင်သည်။]

(ခ) လိမ်မပြောရန် တပည့်များကို ဆရာက **စာသင်ခန်းတွင်** ဆုံးမ သည်။
[ဆရာဆုံးမသော နေရာသည် စာသင်ခန်းဖြစ်သည်။]

၄။ (က) ထို့နောက် ပြိုင်ပွဲဝင် အားကစားအသင်းများသည်... **အစီအစဉ် အတိုင်း** အားပေးကြည့်ရှု နေကြသည့် ပရိသတ်ကို လက်များ ဝှေ့ယမ်း နှုတ်ဆက်လျက် ပြန်လည်ထွက်ခွာသွားကြသည်။
[ပရိသတ်က အစီအစဉ်အတိုင်း အားပေး ကြည့်ရှုသည်။]

(ခ) ထို့နောက် ပြိုင်ပွဲဝင် အားကစားအသင်းများသည်...
အားပေး ကြည့်ရှုနေကြသည့် ပရိသတ်ကို လက်များ
ဝှေ့ယမ်း နှုတ်ဆက်လျက် **အစီအစဉ်အတိုင်း** ပြန်လည်
ထွက်ခွာသွားကြသည်။
[ ပြိုင်ပွဲဝင်အားကစားအသင်းများ အစီအစဉ်အတိုင်း
ထွက်ခွာ သွားသည်။ ]

၅။ (က) အိမ်တွင် မြန်မာ့ယဉ်ကျေးမှုကို အစဉ်ထိန်းသိမ်း ရမည်ဟု
မိဘနှစ်ပါးက ဆုံးမသည်။
[အိမ်တွင်သာ ထိန်းရမည်။ ပြင်ပတွင် ထိန်းရန် မလို။]

(ခ) မြန်မာ့ယဉ်ကျေးမှုကို **အစဉ်ထိန်းသိမ်းရမည်** ဟု
မိဘနှစ်ပါးက အိမ်တွင် ဆုံးမသည်။
[ မိဘနှစ်ပါး ဆုံးမသော နေရာမှာ အိမ် ဖြစ်သည်။ ]

၆။ (က) ဆေးရုံသန့်ရှင်းရေးအတွက် **လူနာခုတင်ပေါ်နှင့်** **ခုတင်အနီး** <u>လူနာစောင့်များ</u> ထမင်းမစားရ။
[ ခုတင်ပေါ်တွင်ရှိသော လူနာစောင့်များနှင့် ခုတင်အနီးတွင် ရှိသော လူနာစောင့်များသည် ထမင်းမစားရ။ ]

(ခ) ဆေးရုံသန့်ရှင်းရေးအတွက် လူနာစောင့်များ **လူနာခုတင်ပေါ် နှင့် ခုတင်အနီး** <u>ထမင်းမစားရ</u>။
[ ခုတင်ပေါ်နှင့် ခုတင်အနီးတွင် ထမင်းမစားရ။ အခြားနေရာ တွင် စားနိုင်သည်။ ]

ကတ္တားကို သက်ဆိုင်ရာကြိယာနှင့် နီးကပ်စွာ ထားရသည်။

၁။ (က) **သစ်လုပ်ငန်းကော်ပိုရေးရှင်းက** <u>သစ်မွှေးများကို</u>ရောင်းရန် တင်ဒါစနစ်ဖြင့် စီစဉ်လျက်ရှိသည်။
[သစ်လုပ်ငန်းကော်ပိုရေးရှင်းက သစ်မွှေးများကို ပိုင်ဆိုင်သည်။]

(ခ) သစ်မွှေးများကို တင်ဒါစနစ်ဖြင့် ရောင်းရန် **သစ်လုပ်ငန်းကော်ပိုရေးရှင်းက** <u>စီစဉ်လျက်ရှိသည်</u>။
[သစ်လုပ်ငန်းကော်ပိုရေးရှင်းက ရောင်းရန်စီစဉ်သည်။]

၂။ (က) **လော့စ်အိန်ဂျလိစ် တရားရုံးက** <u>ရော့ဒနီကင်းအား</u> ရိုက်နှက်သည့် လူဖြူရဲအဖွဲ့ဝင်များကို တရားသေ လွှတ်ပေးခဲ့သည့် ပြစ်ဒဏ်စီရင်ချက်ကို...
[ရော့ဒနီကင်းသည် လော့စ်အိန်ဂျလိစ်တရားရုံးက ဖြစ်သည်။]

(ခ) ရော့ဒနီကင်းအား ရိုက်နှက်သည့် လူဖြူရဲအဖွဲ့ဝင်များကို **လော့စ်အိန်ဂျလိစ် တရားရုံးက** <u>တရားသေလွှတ်ပေးခဲ့သည့်</u> ပြစ်ဒဏ် စီရင်ချက်ကို ...
[လော့စ်အိန်ဂျလိစ် တရားရုံးက တရားသေလွှတ်ပေးသည်။]

၃။ (က) အာဟာရနှင့် စပ်လျဉ်းသော **အစည်းအဝေးများက** <u>လူကြီး လူငယ်</u> တို့၏ အစားအသောက်ကို စနစ်တကျပြုပြင်သွားသင့်ကြောင်း အဆိုပြုကြသည်။
[အစည်းအဝေးများတွင်ရှိသော လူကြီးလူငယ် ဖြစ်သည်။]

(ခ) လူကြီးလူငယ်တို့၏ အစားအသောက်ကို စနစ်တကျ ပြုပြင်သွားသင့်ကြောင်း အာဟာရနှင့်စပ်လျဉ်းသော **အစည်းအဝေးများက** <u>အဆိုပြုကြသည်</u>။
[အစည်းအဝေးများက အဆိုပြုသည်။]

# ဝါကျဖွဲ့စည်းပုံ မညီညွတ်ခြင်း

ဝါကျများကိုဖွဲ့စည်းသောအခါ ပုဒ်အထားအသိုမှန်ကန်ခြင်းသည် အရေးကြီးသကဲ့သို့ ဖွဲ့စည်းပုံညီညွတ်ခြင်းသည်လည်း အရေးကြီးသည်။ သို့မှသာ ဆိုလိုသောအဓိပ္ပာယ်ကို တိတိကျကျ ရှင်းရှင်းလင်းလင်း ဖော်ပြနိုင်မည်။ ဖွဲ့စည်းပုံညီညွတ်ခြင်း ဆိုသည်မှာ ဝါကျ၏ **အစ အလယ် အဆုံး** တို့သည် အချင်းချင်း ညီညွတ်သည့်သဘောဖြစ်သည်။ **ရှေ့နောက် အဖွင့်အပိတ်** ညီညွတ်ခြင်းသဘောလည်း ပါဝင်သည်။ ဖွဲ့စည်းပုံ မညီညွတ်လျှင် ဆိုလိုရင်းကို ရှင်းခနဲ ထင်းခနဲ ပေါ်လွင်အောင် မဖော်ပြနိုင်တော့ဘဲ အနက်ရှုပ်ထွေးသွားတတ်သည်။

၁။ **မခံချင်စိတ် ဖြစ်ပေါ်တတ်သော အကြောင်းများမှာ** ချိန်းဆိုထားသောနေရာသို့ နောက်ကျမှ ရောက်သွားခြင်း၊ အလုပ်မှအပြန်နောက်ကျခြင်း၊ ဝယ်ခိုင်းထားသော ပစ္စည်းများမဝယ်ခြင်း၊ မှာထားသောကိစ္စ မေ့လျော့ခြင်းတို့ **တွင်မခံချင်စိတ် ဖြစ်ပေါ်ပြီး ငိုတတ်ကြသည်။**

✖ ✔

ဖြစ်ပေါ်တတ်သော ⇨ ဖြစ်ပေါ်ပြီးငိုတတ်သော

တွင်မခံချင်စိတ်ဖြစ်ပေါ်ပြီးငိုတတ်ကြသည် ⇨ ဖြစ်သည်။

မခံချင်စိတ် **ဖြစ်ပေါ်ပြီးငိုတတ်သော** အကြောင်းများမှာ ချိန်းဆိုထားသော နေရာသို့ နောက်ကျမှ ရောက်သွားခြင်း၊ အလုပ်မှ အပြန်နောက်ကျခြင်း၊ ဝယ်ခိုင်းထား သော ပစ္စည်းများမဝယ်ခြင်း၊ မှာထားသောကိစ္စမေ့လျော့ခြင်းတို့ **ဖြစ်သည်။**

၂။ ထို့ကြောင့် ထန်းတက်လုပ်ငန်း ပေါများသော အထက်အညာဒေသ မြေလတ်ပိုင်းရှိ ပြည်သူ့ဆေးရုံများမှ ကျန်းမာရေးဝန်ထမ်းများသည် **ခါးရိုးကျိုးခြင်းနှင့် ပေါင်ရိုးကျိုးခြင်း** လူနာများကုသပြုစုခြင်း လုပ်ငန်းများကို ကျွမ်းကျင်စွာ တတ်မြောက်ထားရန် လိုအပ်လှပါသည်။

✖ ✔

ခါးရိုးကျိုးခြင်းနှင့်ပေါင်ရိုးကျိုးခြင်း ⇨ ခါးရိုးကျိုးသောလူနာများနှင့် ပေါင်ရိုးကျိုးသော

ထို့ကြောင့် ထန်းတက်လုပ်ငန်းပေါများသော အထက်အညာဒေသ မြေလတ်ပိုင်းရှိ ပြည်သူ့ဆေးရုံများမှ ကျန်းမာရေးဝန်ထမ်းများသည် **ခါးရိုးကျိုးသော လူနာများနှင့် ပေါင်ရိုးကျိုးသော** လူနာများ ကုသပြုစုခြင်းလုပ်ငန်းများကို ကျွမ်းကျင်စွာ တတ်မြောက်ထားရန် လိုအပ်လှပါသည်။

၃။ ဘ သည် မြင်းကပါဘက်မှ မနက်စောစော**ပြန်အလာ** တန်းလျား ထက်မှာ ထိုင်ချလိုက်သည်။

✖ ✔

ပြန်အလာ ⇨ ပြန်ရောက်သည်နှင့်

ဘ သည် မြင်းကပါဘက်မှ မနက်စောစော **ပြန်ရောက်သည်နှင့်** တန်းလျား ထက်မှာ ထိုင်ချလိုက်သည်။

၄။ ဘဝဖူလုံရေး၊ ဒါနရှင်ဖြစ်ရေး၊ သန်းကြွယ်သူဌေးဖြစ်**လိုလျှင်** အောင်ဘာလေမှာ ကံစမ်းပါ။

ရေး၊ ရေး၊ လိုလျှင် ✖
ရေး၊ ရေး၊ ရေး ✔

ဘဝဖူလုံရေး၊ဒါနရှင်ဖြစ်ရေး၊ သန်းကြွယ်သူဌေးဖြစ်**ရေး** အောင်ဘာလေမှာ ကံစမ်းပါ။

၅။ ပေါ့ဆမှု၊ ရေကူးအတွေ့အကြုံမရှိမှုနှင့် အရက်သေစာ သောက်စားထား**ခြင်း**တို့ကြောင့် ရေနစ်သေဆုံးရခြင်းဖြစ်ကြောင်း ယွန်ဟပ် သတင်းဌာနက ရေးသားဖော်ပြသည်။

| | | | |
|---|---|---|---|
| မှု၊ | မှု၊ | ခြင်း | ✖ |
| မှု၊ | မှု၊ | မှု | ✔ |
| ခြင်း၊ | ခြင်း၊ | ခြင်း | ✔ |

ပေါ့ဆ **မှု**၊ ရေကူးအတွေ့အကြုံမရှိ **မှု** နှင့် အရက်သေစာ သောက်စားထား**မှု** တို့ကြောင့် ရေနစ်သေဆုံးရခြင်းဖြစ်ကြောင်း ယွန်ဟပ် သတင်းဌာနက ရေးသားဖော်ပြသည်။

ပေါ့ဆ**ခြင်း**၊ ရေကူးအတွေ့အကြုံမရှိ**ခြင်း**နှင့် အရက်သေစာသောက်စားထား**ခြင်း**တို့ကြောင့် ရေနစ်သေဆုံးရခြင်းဖြစ်ကြောင်း ယွန်ဟပ်သတင်းဌာနက ရေးသားဖော်ပြသည်။

# ဝါကျတွင်း ဖွဲ့စည်းပုံ ပိုခြင်း၊ လိုခြင်း

ဝါကျများ ဖွဲ့သောအခါ **ပိုခြင်း** ၊ **လိုခြင်း** ရှိတတ်သည်။

**ပိုခြင်း**ဆိုသည်မှာ မလိုအပ်သော စကားလုံးများ၊ ပုဒ်များ ပါဝင်ဖွဲ့စည်းနေခြင်း ဖြစ်သည်။

**လိုခြင်း**ဆိုသည်မှာ လိုအပ်သောစကားလုံးများ၊ ပုဒ်များမပါရှိခြင်း ဖြစ်သည်။

ဤ**ပိုခြင်း၊ လိုခြင်း**တို့သည် ဝါကျ၏အဓိပ္ပာယ်ကို ရှုပ်ထွေးစေတတ်သည်။

ထို့ကြောင့် ဝါကျဖွဲ့ရာတွင် လိုအပ်သည့် စကားလုံး၊ ပုဒ်တို့ မကျန်ရှိစေရန် ဂရုပြုရသည်။ မလိုအပ်သည့် စကားလုံး၊ ပုဒ်တို့ မပါရှိစေရန်လည်း သတိပြုရသည်။

# ပိုခြင်း

၁။ **သေဆုံးသူများမှာ** ဟိုယန်းမြစ်အတွင်း ကူးတို့သင်္ဘောမှောက်၍ လူ(၁၀)ဦး သေဆုံးပြီး (၅)ဦး ဒဏ်ရာရရှိသွားသည်။

ဟိုယန်းမြစ်အတွင်း ကူးတို့သင်္ဘောမှောက်၍ လူ(၁၀)ဦးသေဆုံးပြီး (၅)ဦး ဒဏ်ရာရရှိသွားသည်။ ✔

၂။ သစ်တောကုမ္ပဏီတို့က ဆက်သွင်းရန် ငွေတော်နှစ်သန်း သုံးသိန်းကျော် **များ** ကို မတောင်းမခံ ချမ်းသာပေးတော်မူမည့်အကြောင်း…

သစ်တောကုမ္ပဏီတို့က ဆက်သွင်းရန် ငွေတော်နှစ်သန်း သုံးသိန်းကျော် ကို မတောင်းမခံ ချမ်းသာပေးတော်မူမည့်အကြောင်း… ✔

၃။ ကြို့ကုန်းကျေးရွာ၊ နေကြာစိုက်ခင်း မြေကြီးထဲတွင် မြှုပ်ထားသော ဘိန်းစိမ်း (၈ ဒသမ ၆၅ကီလို ) ကို **ဝှက်၍သိမ်းထားသည်ကို** ရှာဖွေသိမ်းဆည်းရမိသဖြင့် . . .

ကြို့ကုန်းကျေးရွာ၊ နေကြာစိုက်ခင်း မြေကြီး ထဲတွင် မြှုပ်ထားသော ဘိန်းစိမ်း ( ၈ ဒသမ ၆၅ ကီလို ) ကို ရှာဖွေ သိမ်းဆည်း ရမိသဖြင့်… ✔

၄။ ကျွန်တော်၏ နားနှစ်ဖက်သည် လေတဟူးဟူးထွက်ကာ အစဉ်အမြဲ **နားက** အူနေပါသည်။

ကျွန်တော်၏ နားနှစ်ဖက်သည် လေတဟူးဟူးထွက်ကာ အစဉ်အမြဲ အူနေပါသည်။ ✔

၅။ ဟိုတယ်နှင့်တွဲလျက် ကားကြီးများ ရပ်နားစခန်းပါ **တွဲ၍** ဖွင့်လှစ်ထားသည့်အတွက် ရန်ကုန်မှလာသည့် ကားကြီးများရပ်နားရန် နေရာအသင့်၊ ကုန်များကို သိုလှောင်ရန် အသင့်ရှိသည့်အပြင် . . .

ဟိုတယ်နှင့်တွဲလျက် ကားကြီးများ ရပ်နားစခန်းပါ ဖွင့်လှစ်ထားသည့်အတွက် ရန်ကုန်မှလာသည့် ကားကြီးများ ရပ်နားရန်နေရာ အသင့်၊ ကုန်များကို သိုလှောင်ရန်အသင့် ရှိသည့် အပြင် . . . ✔

၆။ အခုဆက်လက်ပြီး ကျန်ရှိနေသေးသော သတင်းများကို ဦးကျော်ကျော်က ကြေညာ **လိမ့်** မှာ ဖြစ်ပါတယ်။

အခုဆက်လက်ပြီး ကျန်ရှိနေသေးသောသတင်းများကို ဦးကျော်ကျော်က ကြေညာမှာ ဖြစ်ပါတယ်။ ✔

၇။ ဤကဲ့သို့ လူ **တွေ့** တိုင်းနှင့် အလျဉ်းသင့်အောင် စကားပြောနိုင်ရန် နည်းသည် အလွန်လွယ်ကူ၏။

ဤကဲ့သို့ လူတိုင်းနှင့် အလျဉ်းသင့်အောင် စကားပြောနိုင်ရန် နည်းသည် အလွန်လွယ်ကူ၏။ ✔

၈။ . . . ရေဒီယိုအိုင်ဆိုတုပ်များကို **အသုံးပြုရေး၊ ယင်းတို့ကို** စိုက်ပျိုးရေး **တွင် အသုံးပြုရေး၊** ကျန်းမာရေး **လုပ်ငန်းတွင် အသုံးပြုရေးနှင့်** မြေအောက် သယံဇာတ ဖော်ထုတ်ရေးနှင့် ဆောက်လုပ်ရေးလုပ်ငန်းများ၌ . . . အသုံးပြုရေးတို့ ဖြစ်သည်။

. . . ရေဒီယိုအိုင်ဆိုတုပ်များကို စိုက်ပျိုးရေး၊ ကျန်းမာရေး၊ မြေအောက် သယံဇာတဖော်ထုတ်ရေးနှင့် ဆောက်လုပ်ရေးလုပ်ငန်းများ၌... အသုံး ပြုရေးတို့ ဖြစ်သည်။ ✔

၉။ ငွေကြေးအကုန်အကျ မများဘဲ **သို့မဟုတ်** ပြုစုပေးသူ အတွက်လည်း တာဝန်မကြီးစေသော နည်းလမ်းတစ်ခုကို တွေ့ရှိထားပြီးဖြစ်သည်။

ငွေကြေးအကုန်အကျ မများဘဲ ပြုစုပေးသူအတွက်လည်း တာဝန်မကြီး စေသော နည်းလမ်းတစ်ခုကို တွေ့ရှိထားပြီးဖြစ်သည်။ ✔

# လိုမှုများ

၁။ ဘက်မလိုက်ခြင်းသည် နိုင်ငံငယ်များ၏ လွတ်လပ်ရေးအတွက် အကာအကွယ်ဖြစ်သည်။ ကျွန်ုပ်တို့၏ ဆောင်ပုဒ်သည် ပူးပေါင်းဆောင်ရွက်ရေး ____ ထိပ်တိုက် ရင်ဆိုင်ရေး မဟုတ်။

**( ____ လိုနေသောပုဒ် = ဖြစ်ပြီး )**

ဘက်မလိုက်ခြင်းသည် နိုင်ငံငယ်များ၏ လွတ်လပ်ရေးအတွက် အကာအကွယ်ဖြစ်သည်။ ကျွန်ုပ်တို့၏ ဆောင်ပုဒ်သည် ပူးပေါင်းဆောင်ရွက်ရေး**ဖြစ်ပြီး** ထိပ်တိုက် ရင်ဆိုင်ရေး မဟုတ်။

၂။ တမြန်နေ့က နွား ____ ကိုက်သွားသော ကျားကြီးပင်ဖြစ်သည်။

**( ____ လိုနေသောပုဒ် = ကို )**

တမြန်နေ့က နွား**ကို** ကိုက်သွားသော ကျားကြီးပင်ဖြစ်သည်။

၃။ . . . သန်းပေါင်း၄၀နဲ့ ငွေတန်ဖိုးအားဖြင့် ညီမျှတဲ့ ဒီစာချုပ်သစ်ဟာ ပစ္စည်းဖလှယ်တဲ့နည်းနဲ့ ▭ ကုန်သွယ်ရေးစာချုပ် ဖြစ်ပါတယ်။

**( ▭ လိုနေသောပုဒ် = ချုပ်ဆိုတဲ့ )**

. . . သန်းပေါင်း၄၀နဲ့ ငွေတန်ဖိုးအားဖြင့် ညီမျှတဲ့ ဒီစာချုပ်သစ်ဟာ ပစ္စည်းဖလှယ်တဲ့နည်းနဲ့**ချုပ်ဆိုတဲ့** ကုန်သွယ်ရေးစာချုပ် ဖြစ်ပါတယ်။

၄။ ကျွန်တော် မောင်သန့်ဇင် ▭ စီဒီစီအမှတ်–၁၇၂၁၆ သည် ပျောက်ဆုံး သွားပါသဖြင့် တွေ့ရှိက ပြန်လည်ပေးပို့ပါရန်...

**( ▭ လိုနေသောပုဒ် = ၏ )**

ကျွန်တော် မောင်သန့်ဇင်**၏** စီဒီစီ အမှတ်–၁၇၂၁၆ သည် ပျောက်ဆုံးသွားပါသဖြင့် တွေ့ရှိက ပြန်လည်ပေးပို့ပါရန်...

၅။ ... နွားဦးနှောက်များ၊ ကျောရိုးများ၊ ခေါင်းရိုးနှင့် ကလီစာ စသည်များ ▭ စားသုံးသူများ မသုံးစွဲမိစေရေးအတွက် ထိရောက်စွာ အရေးယူ ဆောင်ရွက်ရန် အစီရင်ခံစာ တင်ပြထားသည်။

**( ▭ လိုနေသောပုဒ် = ကို )**

... နွားဦးနှောက်များ၊ ကျောရိုးများ၊ ခေါင်းရိုးနှင့် ကလီစာ စသည်များ**ကို** စားသုံးသူများ မသုံးစွဲမိစေရေးအတွက် ထိရောက်စွာအရေးယူ ဆောင်ရွက်ရန် အစီရင်ခံစာ တင်ပြထားသည်။

၆။ အချို့သောသူတို့မှာ ကတ္တား၊ ဝါစက၊ ကံ တို့ကို ရှင်းလင်းစွာ အသုံး မပြုသောကြောင့် ▭ အမှားမှား အယွင်းယွင်း ဖြစ်နေတတ်ပေ၏။

**( ▭ လိုနေသောပုဒ် = ၎င်းတို့၏စာမှာ )**

အချို့သောသူတို့မှာ ကတ္တား၊ ဝါစက၊ ကံတို့ကို ရှင်းလင်းစွာ အသုံး မပြုသောကြောင့် **၎င်းတို့၏စာမှာ** အမှားမှား အယွင်းယွင်း ဖြစ်နေ တတ်ပေ၏။

၇။ အပေါက်များကို မူလအတိုင်း [ ] ဖာပေးသည်။

**( [ ] လိုနေသောပုဒ် = ဖြစ်အောင် )**

မူလအတိုင်း**ဖြစ်အောင်** အပေါက်များကို ဖာပေးသည်။

၈။ ...ကလေးသူငယ်များ ဘာသာတရားကို အလေးထားပြီး ယဉ်ကျေးသိမ်မွေ့သောနိုင်ငံသားများ [    ] နှင့် ဘာသာ၊ သာသနာ ထွန်းကားပြန့်ပွားရေးအတွက် အခြေခံကျသော လုပ်ငန်းတစ်ရပ် ဖြစ်၍ ...

**( [    ] လိုနေသောပုဒ် = ဖြစ်လာစေရေး)**

...ကလေးသူငယ်များ ဘာသာတရားကို အလေးထားပြီး ယဉ်ကျေးသိမ်မွေ့သော နိုင်ငံသားများ **ဖြစ်လာစေရေး**နှင့် ဘာသာ၊ သာသနာ ထွန်းကားပြန့်ပွားရေးအတွက် အခြေခံကျသော လုပ်ငန်းတစ်ရပ် ဖြစ်၍ ...